**KHAING OO** COMPANY LIMITED

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။
ရက်စွဲ ။ ၁၀.၃.၂၀၁၆

အကြောင်းအရာ ။ ။<u>ဝန်ခံကတိပြုခြင်း</u>။

အထက်အကြောင်းအရာနှင့်ပတ်သက်၍ နိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်/ကျွန်မတို့၏ Khaing Oo Co.,Ltd. တွင် တာဝန်ထမ်းဆောင်နေသော ဝန်ထမ်းအားလုံးအနက် တစ်နှစ်လုပ်ခလစာရငွေ စုစုပေါင်း ကျပ် (၄၈) သိန်း ကျော်လွန်ပါက ပေးဆောင်ရမည့်ဝင်ငွေခွန်ကို ၄င်းတို့လစာမှ ဖြတ်တောက်၍ ဝင်ငွေခွန်ပေးဆောင်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ဖိုးမယ်ထွန်း
Director
Khaing Oo Co., Ltd.

*KHAING OO* COMPANY LIMITED

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ် လ၊ ( ၁၃ ) ရက်။

အကြောင်းအရာ။ ။<u>အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေအားတင်ပြခြင်း။</u>

၁။ Khaing Oo Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ် (၂၃) မြေကွက်တွင် "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ငှားရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဝန်ဆောင်မှု လုပ်ငန်း" ကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။

၂။ "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ငှားရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဝန်ဆောင်မှု လုပ်ငန်း" လုပ်ကိုင်ရန်အတွက် လိုအပ်သောဝန်ထမ်းများကို ဖြည့်ပကျွမ်းကျင်သူများအပါအဝင် ပြည်တွင်းရှိအတတ်ပညာရှင်များနှင့် လုပ်သားအင်အားများကိုအသုံးပြုပြီး လုပ်ကိုင်သွားမည်ဖြစ်ပါသည်။ ထို့ကြောင့် ဖော်ပြပါလုပ်ငန်းဆောင်ရွက်ခွင့် ရရှိပါ က မြန်မာနိုင်ငံသား ဝန်ထမ်းများ ( ၉၉ ) ဦးခန့် အလုပ်အကိုင်များရရှိကြမည် ဖြစ်ပါသည်။

၃။ နောင်အချိန်တွင် လုပ်ငန်းတိုးချဲ့ဆောင်ရွက်သွားမည်ဖြစ်ပြီးထိုသို့လုပ်ငန်းတိုးချဲ့ဆောင်ရွက်ပါက မြန်မာနိုင်ငံသားဝန်ထမ်းများပိုမို၍ အလုပ်အကိုင်ရရှိကြပြီး တဘက်တလမ်းမှလည်း နိုင်ငံတော်၏ ဘဏ္ဍာငွေတိုးတက်ရေးကို ဝန်ထမ်းများ၏ လစာပေါ်တွင် ဝင်ငွေခွန်ထမ်းဆောင်ခြင်းဖြင့်လည်းကောင်း၊ လုပ်ငန်းမှဝင်ငွေခွန်များ ပေးဆောင်ခြင်းဖြင့် လည်းကောင်းနိုင်ငံအတွက်အခွန်ဘဏ္ဍာများတိုးတက်ရရှိနိုင်ကြောင်းလေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

(ကဝ)

ဒေါ်ဝင်းမော်ထွန်း
Director
Khaing Oo Co., Ltd.

**KHAING OO** COMPANY LIMITED

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ မတ် လ၊ ( ၁၀ ) ရက်။

အကြောင်းအရာ။ ။**အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်ပုံစံအားတင်ပြခြင်း။**

၁။ Khaing Oo Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ် (၂၃) မြေကွက်တွင် "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ငှားရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဂန်ဆောင်မှု" လုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော် ဆောင်ရွက်မည် ဖြစ်ပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ရာတွင် ခေတ်မီစက်ပစ္စည်းကိရိယာများနှင့် လိုအပ်သောအခြားအထောက်အကူပြုပစ္စည်းများအား ပြည်ပမှတင်သွင်း၍ "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ငှားရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဂန်ဆောင်မှု" လုပ်ငန်းအား (၁၀၀%) မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုအဖြစ် အဆိုပြုတင်ပြထားသောကုမ္ပဏီဖြစ်ပါသည်။

၃။ ကျွန်တော်တို့ " နိုင်ဦး ကုမ္ပဏီလီမိတက် " " Khaing Oo Co.,Ltd. " လုပ်ငန်းအောင်မြင်အောင် ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများလည်း အပြည့်အဝရရှိမည် ဖြစ်ပါသည်။

၄။ ထို့ပြင် အဆိုပါလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေနိုင်ခြင်း၊ နည်းပညာများတိုးတက်စေခြင်း၊ မြန်မာနိုင်ငံ၏ ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းစဉ်များ၊ ဒေသဖွံ့ဖြိုးရေး လုပ်ငန်းများအတွက် အထောက်အကူ ပြုနိုင်ခြင်းနှင့် နိုင်ငံတော်၏ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်း စသည့် အကျိုး ကျေးဇူးများကိုလည်း ရရှိစေနိုင်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(signature) (မခ)

ဒေါ်ဝင်းမော်ထွန်း
Director
Khaing Oo Co., Ltd.

**KHAING OO COMPANY LIMITED**

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ မတ် လ၊ ( ၁၀ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ဂုံးရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဝန်ဆောင်မှု" လုပ်ငန်း စီမံကိန်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည့် အသေးစိတ်အစီအစဉ်များ ရေးဆွဲမည့် အခြေအနေအားတင်ပြခြင်း။

Khaing Oo Co.,Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ် (၂၃) မြေကွက်တွင် "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ဂုံးရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဝန်ဆောင်မှု" လုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ပါသည်။

ယင်းစီမံကိန်းနှင့်ပတ်သက်၍ လုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးစေမှုများ၊ လူမှုအကျိုးစီးပွားနှင့်ကျန်းမာရေးအပေါ် ထိခိုက်စေမှုများမရှိစေရန် (သို့မဟုတ်) နည်းပါးစေရန်အတွက် သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု ဆန်းစစ်လေ့လာခြင်း (Environmental Impact Accessment-EIA) လုပ်ငန်းနှင့် အဆိုပါဆန်းစစ်လေ့လာ တွေ့ရှိချက်များကိုအခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် ဆောင်ရွက်မည့် စီမံချက်များပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၂၀၁၂ အရ လည်းကောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနည်းဥပဒေများ ၂၀၁၄ အရ လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စည်းမျဉ်းများ ၂၀၁၃ အရ လည်းကောင်း၊ နိုင်ငံတကာ စံချိန်စံညွှန်းနှင့်အညီ ကျွမ်းကျင်သည့်ပညာရှင်များဖြင့် တာဝန်ယူလေ့လာဆန်းစစ်မှုများပြုလုပ်၍ အစီရင်ခံတင်ပြသွားရန် ရှိပါသည်။

အစီရင်ခံစာများကို ပြုစုရာတွင်-

1. အဆိုပြုလုပ်ငန်းစီမံကိန်း၏ နောက်ခံအကြောင်းအရာများ၊ စီမံကိန်း၏ အနီးဝန်းကျင်ရှိ ရူပပတ်ဝန်းကျင်ဆိုင်ရာ အကြောင်းအချက်များ၊ သက်ရှိဇီဝဆိုင်ရာ အကြောင်းအချက်များ၊ လူမှုစီးပွားဆိုင်ရာ အကြောင်းအရာများကို ကွင်းဆင်းလေ့လာဆောင်ရွက်သွားပါမည်။
2. ကွင်းဆင်းလေ့လာဆောင်ရွက်ရာတွင်လည်း GIS နည်းပညာအသုံးပြု၍ မြေပုံထုတ်ခြင်း၊ မြေဆီလွှာနှင့် ရေနမူနာ များယူ၍ စစ်ဆေးခြင်းများကို ပြုလုပ်ဆောင်ရွက်သွားပါမည်။

3. သဘာဝပတ်ဝန်းကျင်သက်ရောက်နိုင်မှုနှင့် ထိခိုက်နိုင်မှုဆန်းစစ်လေ့လာရာတွင်လည်း အကြိုတည်ဆောက်မှုလုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍ လုပ်ငန်းအဆင့်အသီးသီးအလိုက် ယင်းစီမံကိန်း၏ ပတ်ဝန်းကျင်အပေါ် လူမှုအကျိုးစီးပွားနှင့် ကျန်းမာရေးအပေါ် အကျိုးသက်ရောက်နိုင်မှုများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ချမှတ်ထားသော သတ်မှတ်ချက်များကိုအခြေခံ၍ အသေးစိတ်လေ့လာဆန်းစစ်ဆောင်ရွက်သွားပါမည်။

4. ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲရာတွင်လည်း အကြိုတည်ဆောက်မှုလုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍ လုပ်ငန်းအဆင့်အသီးသီးအလိုက် ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် အတွက် ဆောင်ရွက်မည့်အစီအမံများ၊ စီမံခန့်ခွဲမှုနှင့် စောင့်ကြပ်ကြည့်ရှုမည့်အစီအစဉ်များ၊ အရေးပေါ်အစီအစဉ်များကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ချမှတ်ထားသော သတ်မှတ်ချက်များကိုအခြေခံ၍ အသေးစိတ်ရေးဆွဲဆောင်ရွက်သွားပါမည်။

ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (EMP) အစီရင်ခံစာအပြည့်အစုံကိုပြုစု၍ ပေးပို့တင်ပြသွားမည်ဖြစ်ကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ကစ)

ဒေါ်ဝင်းမော်ထွန်း
Director
Khaing Oo Co., Ltd.

KHAING OO COMPANY LIMITED

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။
ရက်စွဲ ။ ၁၀.၃.၂၀၁၆

အကြောင်းအရာ ။ ။ဝန်ခံကတိပြုခြင်း။

အထက်အကြောင်းအရာနှင့်ပတ်သက်၍ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်/ကျွန်မတို့၏ Khaing Oo Co., Ltd. သည် လျှပ်စစ်ဓါတ်အားမရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်များထားရှိ၍ လျှပ်စစ်မီးအားရယူဆောင်ရွက်မည်ဖြစ်ပါကြောင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်လင်းမယ်ထွန်း
Director
Khaing Oo Co., Ltd.

# KHAING OO COMPANY LIMITED.

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်( ၁ ) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်မြို့။

စာအမှတ် ။
ရက်စွဲ ။ ၁၀.၃.၂၀၁၆

အကြောင်းအရာ။ ။လူမှုစီးပွားဖွံ့ဖြိုးတိုးတက်စေရန်လူမှုရေးတာဝန်ယူပူးပေါင်းဆောင်ရွက်မှု(CSR) အတွက်ကတိခံဝန်ချက်တင်ပြခြင်းကိစ္စ။

အထက်အကြောင်းအရာပါကိစ္စရပ်နှင့်ပတ်သက်၍ Khaing Oo Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါလမ်း၊ အကွက်အမှတ် (၂၃) မြေကွက်တွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်လုပ်၍ "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ငှားရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဝန်ဆောင်မှုလုပ်ငန်း" လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်တင်ပြထားသည့် ကုမ္ပဏီတစ်ခုဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန်ခွင့်ပြုမိန့်ရရှိခဲ့ပြီး လုပ်ငန်းစဆောင်ရွက် လုပ်ကိုင်ဆောင်ရွက်မည်ဆိုပါက လုပ်ငန်း၏အဓိကမဏ္ဍိုင်နှင်အားဖြစ်သည့် ကုမ္ပဏီ၏ဝန်ထမ်းများနှင့်အလုပ်သမားများအပါအဝင် လုပ်ငန်းလုပ်ကိုင်ရာဒေသနှင့်ပတ်ဝန်းကျင်ရှိ လူပုဂ္ဂိုလ်များ အားလုံးတို့၏အထွေထွေလူမှုစီးပွားဖွံ့ဖြိုးတိုးတက်စေရန်အတွက် "လူမှုရေးတာဝန်ယူပူးပေါင်းဆောင်ရွက်မှု" (CorporateSocial Responsibility) ကျင့်စဉ်များနှင့်အညီဆောင်ရွက်နိုင်ရန် ကုမ္ပဏီ၏နှစ်စဉ်ရရှိသောအမြတ်ငွေမှ (၂%)အား "လူမှုရေးတာဝန်ယူပူးပေါင်းဆောင်ရွက်မှုရန်ပုံငွေ"အဖြစ် ထူထောင်ထားရှိသွားမည် ဖြစ်ပါသည်။

"လူမှုရေးတာဝန်ယူပူးပေါင်းဆောင်ရွက်မှုရန်ပုံငွေ"မှ အောက်ဖော်ပြပါလုပ်ငန်းများအတွက်အကျိုးရှိစွာ ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။

( ၁ ) ဒေသရှိကျောင်းသားလူငယ်များအတွက် ပညာရေးကူညီထောက်ပံ့ခြင်းအတွက် ၂၀ %
( ၂ ) ဒေသရှိပြည်သူများ ကျန်းမာရေးစောင့်ရှောက်မှုလုပ်ငန်းအတွက် ၂၀ %
( ၃ ) ဒေသ၏လမ်းပန်းဆက်သွယ်ရေးနှင့် စည်ပင်တိုးတက်ရေးအတွက် ၂၀ %
( ၄ ) ဝန်ထမ်းများစွမ်းဆောင်ရည်မြင့်မားရန်အတွက် သင်တန်းများစီစဉ်ပေးခြင်းအတွက် ၂၀ %
( ၅ ) အခြားလုပ်ငန်းများအတွက်အမြဲတမ်းထားရှိမည့်စုဆောင်းရန်ပုံငွေအတွက် ၂၀ %

KHAING OO COMPANY LIMITED

No.(348), Zayar Khaymar Street, word No.(6), Mayangone Township, Yangon

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁) သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့။

စာအမှတ် ။

ရက်စွဲ ။ ၁၀.၃.၂၀၁၆

အကြောင်းအရာ။ ။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်ထားရှိမည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း။

အထက်အကြောင်းအရာ နှင့်ပတ်သက်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်ုပ်တို့၏ Khaing Oo Co.,Ltd. သည် "ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းအတွက် လိုအပ်သော သိုလှောင်ရုံ ငှားရမ်းခြင်းနှင့် ကွန်တိန်နာများ အငှားထားနေရာ ဝန်ဆောင်မှု" လုပ်ငန်းများဆောင်ရွက်သည့်လုပ်ငန်းခွင်ဧရိယာအတွင်း မီးဘေး အန္တရာယ် ကြိုတင်ကာကွယ်မှု အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

(၁) ရေဂါလံ(၂၅၀၀)ဆန့်ရေသိုလှောင် ကန် (၂) ကန်ကိုတည်ဆောက် ထားရှိမည်ဖြစ်ပါသည်။

(၂) လုပ်ငန်းအဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် ရေပုံး ၊မီးကပ် ၊သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့် ထားရှိမည်ဖြစ်ပါသည်။

(၃) မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်နိုင်ရေးအတွက် ဝန်ထမ်းအလုပ်သမားများသည် မီးဘေးအန္တရယ် ကြိုတင်ကာကွယ်ခြင်း၊ မီးငြိမ်းသတ်ခြင်း တို့နှင့်ပတ်သက်၍ ဗဟုသုတရရှိရန်အလို့ငှာ မီးသတ်ဦးစီးဌာနမှ ကျွမ်းကျင်သူများ အားဖိတ်ကြား၍ သင်တန်းပို့ချမည် ဖြစ်ပါသည်။

(၄) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ခြင်းအတွက် စည်းကမ်းချက်များချမှတ်ထားပြီး ယင်းတို့ကိုဝန်ထမ်းများ တိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားရှိပါမည်။

(၅) ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါသည်။

( ၆ ) လုပ်ငန်းခွင်အတွင်း၊ ရုံးအဆောက်အဦးအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကိုတင်းကျပ်စွာတားမြစ်ထားရှိမည်ဖြစ်ပြီး ဆေးလိပ်သောက်သုံးရန်နေရာအား သတ်မှတ်ပေးမည်ဖြစ်ပါသည်။

( ၇ ) လျှပ်စစ်နှင့်ပတ်သက်သည့် မီးဘေးအန္တရာယ်များ မဖြစ်ပေါ်စေရန် မီးကြိုးသွယ်တန်းမှုများ၊ တပ်ဆင်မှုများ၊ မီးအားမြှင့်စက်များနှင့် လျှပ်စစ်ဓာတ်အားအသုံးပြု၍ လည်ပတ်ရသောလျှပ်စစ်သုံးအိမ်သုံးပစ္စည်းများ အားအချိန်ဇယားများချမှတ်၍ အမြဲမပြတ်စစ်ဆေးသွားမည်ဖြစ်ပါသည်။

( ၈ ) လုပ်ငန်းခွင်အတွင်းသန့်ရှင်းသပ်ရပ်စေရန် အမှိုက်များအားစနစ်တကျပုံးဖြင့်ထားရှိရန် ၊မီးလောင်လွယ်သည့်မြက်ပင်နှင့်ကိုင်းပင်တို့အား ခုတ်ထွင်ရှင်းလင်းထားမည် ဖြစ်ပါသည်။

( ၉ ) လုပ်ငန်းဆောင်ရွက်မည့်ဧရိယာအတွင်း မီးဘေးအန္တရာယ်ပေါ်ပေါက်ပါက အလွယ်တကူမီးငြိမ်းနိုင်ရန် အတွက်လူသွားယာဉ်သွားလမ်းများ ထားရှိမည်ဖြစ်ပါသည်။

( ၁၀ ) ဧရိယာအလိုက် ထားရှိရန်လိုအပ်သည့် မီးသတ်ဆေးဗူးများအား ရုံးခန်း၊ သိုလှောင်ရုံ၊ မီးဖိုဆောင်၊ စားသောက်ဆောင်၊ မီးစက်၊ ဆီသိုလှောင်သည့်နေရာ၊ ဝန်ထမ်းများအိပ်ဆောင်နှင့် ပစ္စည်းသိုလှောင်သည့်ဂိုဒေါင်များ၌ စနစ်တကျသက်မှတ်အရေအတွက်များအတိုင်း ထားရှိမည်ဖြစ်ပါသည်။

<u>မီးငြိမ်းသတ်ခြင်းနှင့်ပတ်သက်၍အောက်ပါအတိုင်းစီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။</u>

( ၁ ) လုပ်ငန်းရှိဝန်ထမ်းအလုပ်သမားဦးရေပေါ်မူတည်၍ မီးငြိမ်းသတ်ရေးအဖွဲ့၊ ပစ္စည်းသယ်ယူရေးအဖွဲ့နှင့် ပေါင်းစပ်ညှိနှိုင်းရေးအဖွဲ့များ ဖွဲ့စည်း၍တာဝန်ပေးအပ်မည်ဖြစ်ပါသည်။

( ၂ ) ဖွဲ့စည်းပြီးသောအဖွဲ့များအနေဖြင့် တစ်ဖွဲ့ချင်းလုပ်ဆောင်ရမည့် အချက်အလက်များအား တိကျစွာထုတ်ပြန်ထားမည်ဖြစ်ပါသည်။

( ၃ ) အဖွဲ့များအနေဖြင့် ချမှတ်ထားသောမိမိတို့ဆောင်ရွက်ရမည့် အချက်များအား မီးဘေးကိစ္စပေါ်ပေါက်ပါက လွယ်ကူလျှင်မြန်စွာ ဆောင်ရွက်နိုင်ရန်အတွက် မီးငြိမ်းသတ်ရေး အစမ်းလေ့ကျင့်ခြင်းအစီအစဉ်အား သက်ဆိုင်ရာမြို့နယ်မီးသတ်ဦးစီးဌာနနှင့် ပူးပေါင်း၍ဆောင်ရွက်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(ကခ)

ဒေါ်ဝင်းမော်ထွန်း
Director
Khaing Oo Co., Ltd.

000164

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ...၁၂၂၃...../ ၂၀၁၅-၂၀၁၆ (နပတ)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ..ခိုင်ဦး..ကုမ္ပဏီ လီမိတက်.................................
...................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ်၂၀၁၅...နှစ်၊ ဒီဇင်ဘာ.....လ၊ ၈....ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မျိုးမင်း၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..........1223........... of 2015-2016 (NPW)

I hereby certify that ............KHAING OO COMPANY LIMITED.................
.................................................................is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ......EIGHTH.........................day of ......DECEMBER, TWO THOUSAND AND FIFTEEN.....................

**For Director General**
**( Myo Min , Director )**
Directorate of Investment and Company Administration

# THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
# MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT
## DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION
## CERTIFICATE OF REGISTRATION OF DOCUMENTS

No. 1223 of 2015 - 2016 (NPW)

IN THE MATTER OF KHAING OO COMPANY LIMITED

I do hereby certify that pursuant to the Myanmar Companies Act.

1. Memorandum and Articles of Association.
2. Declaration of Registration of Company.
3. Situation of Registered Office.
4. List of Directors.

Has / Have been this day duly filed and registered in this office

Dated Yangon, this EIGHTH day of DECEMBER, TWO THOUSAND AND FIFTEEN.

### MEMORANDUM OF FEES PAID

Registering -
For ..............................
Filing

| | | | | K. | P. |
|---|---|---|---|---|---|
| 1. | Memorandum of Association | ...... | ...... | | |
| 2. | Article of Association | ...... | ...... | | |
| 3. | Notice of situation of registered Office and changes therein | ...... | ...... | | |
| 4. | Return of allotments | ...... | ...... | | |
| 5. | Annual list of members and summary of share Capital (Form E) | ...... | ...... | | |
| 6. | Balance sheet | ...... | ...... | | |
| 7. | Special or extraordinary resolution | ...... | ...... | | |
| 8. | Particular of mortgages and charges | ...... | ...... | | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein | ...... | ...... | | |
| 10. | Return of persons authorized to accept Services of process and changes therein | ...... | ...... | | |
| 11. | Registration Fees For A/U Capital. | ...... | ...... | 1,000,000 . | 00 |
| | Total : | | | 1,000,000 . | 00 |

FOR DIRECTOR GENERAL
(MYO MIN – DIRECTOR)

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : **Khaing Oo** Company Limited

Presented by :U Pwint San

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| U Pwint San | 12/ Ma Ya Ka (N) 007186 | No.(348), Zayar Khaymar Street, ward No.(6), Mayangone Township, Yangon. | Merchant | Appointed As Managing Director (wef; 9.12.2015) |
| Daw Win Maw Tun | 8/ Ya Na Kha N) 011067 | Shwe Bon Thar East Yart, Thit Ta Pwe Ward, Yaynanchaung Township, Magwe. | Merchant | Appointed As Director (wef; 9.12.2015) |
| U Pyae Phyo Aung | 12/ Pa Ba Ta (N) 000274 | No.(11/A), Kone Myint Thayar, Kone Myint Thayar Street, 7-Miles, Mayangone Township, Yangon. | Merchant | Appointed As Director (wef; 9.12.2015) |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last Particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word in plae of ...................... and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Date this 9.12.2015

Signature U Pwint San

**Managing Director**

Designation **Khaing Oo Co.,Ltd**

FORM VI

# RETURN OF ALLOTMENTS
## THE MYANMAR COMPANIEES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 9th of December of 2015 on the 9th of December of 2015 * KHAINGOO COMPANY LIMITED

Made pursuant to Section 104 (1)

| | | |
|---|---|---|
| Number of the shares of allotted payable in cash | -------- | **5000 Shares** |
| " " " " | -------- | |
| Nominal amount of the shares so allotted | -------- | **50,000,000/-** |
| " " " " | -------- | |
| Amount paid or due and payable on cash such share | -------- | **10,000 /(Fully Paid Up)** |
| " " " " | -------- | |

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted --------

Amount to be treated as paid on each such share --------

The consideration for which such share have been allotted is as follow: -

---

**NOTE:** In making a return of allotted under Section 104 (1) the Myanmar Companies Act., it is to be noted that-

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be efferected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world " From " after the world " allotment " above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

E-mail : cbbank@mptmail.net.mm
Website : www.cbbankmyanmar.com
www.cbbank.com.mm

# STATEMENT OF ACCOUNT

Date : `11-03-2016

CO-OPERATIVE BANK LTD.
H.O
(Ext;)

We confirmed that the balance of the **KHAING OO CO., LTD.** Call Deposit Account with CO-OPERATIVE BANK LTD was as shown in your balance on **11st Mar 2016.**

Bank Account Number : **0010600800002763**

Balance : **MMK - 500,001,000.00**

Signature

Manager
H.O (Extension)
Co-operative Bank Ltd.

CB 25005

E-mail : cbbank@mptmail.net.mm
Website : www.cbbankmyanmar.com
www.cbbank.com.mm

# STATEMENT OF ACCOUNT

**Date : `11-03-2016**

CO-OPERATIVE BANK LTD. H.O (Ext;)

We confirmed that the balance of the **KHAING OO CO., LTD.** Current Account with CO-OPERATIVE BANK LTD was as shown in your balance on **11st Mar 2016.**

Bank Account Number : **0010101200641308**

Balance : **USD - 99,000.00**

Signature

Manager
**H.O (Extension)**
**Co-operative Bank Ltd.**

CB 25003

Annexure ( 7 )

**GREEN ALLIANCE ENERGY COMPANY LIMITED**

**SALES STATEMENT**

| No | PARTICULAR | A/U | BUSINESS IMPLEMENTATION YEAR | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|
| | | | Y-1 | Y-2 | Y-3 | Y-4 | Y-5 | Y-6 To Y-10 | Y-11 To Y-20 | Y-21 To Y-30 |
| **A** | **PURCHASES QUANTITY** | | | | | | | | | |
| 1 | Purchasing Quantity ( Tons ) | | - | 40,000 | 70,000 | 80,000 | 100,000 | 200,000 | 250,000 | 250,000 |
| 2 | Purchaseing Price | | | 800 | 836 | 792 | 792 | 792 | 792 | 792 |
| 3 | Purchased Costs | | | 32,000,000 | 58,520,000 | 63,360,000 | 79,200,000 | 158,400,000 | 198,000,000 | 198,000,000 |
| 4 | Customs Duty ( 1.2% ) | | | 384,000 | 702,240 | 760,320 | 950,400 | 1,900,800 | 2,376,000 | 2,376,000 |
| 5 | Commercial Tax ( 5% ) | | | 1,542,095 | 2,820,107 | 3,053,349 | 3,816,686 | 7,633,371 | 9,541,714 | 9,541,714 |
| 6 | Withhloding Tax ( 2% ) | | | 647,680 | 1,184,445 | 1,282,406 | 1,603,008 | 3,206,016 | 4,007,520 | 4,007,520 |
| 7 | Total Cost | | | 34,573,775 | 63,226,791 | 68,456,075 | 85,570,094 | 171,140,187 | 213,925,234 | 213,925,234 |
| 8 | Cost per Ton | | | 864 | 903 | 856 | 856 | 856 | 856 | 856 |
| **B** | **Sales Prices** | | | | | | | | | |
| 1 | LPG Bottle Sales Price ( USD / Ton ) | Ton | - | 1,000 | 950 | 900 | 900 | 900 | 900 | 900 |
| 2 | LPG Bulk Sales Price ( USD / Ton ) | Ton | - | 900 | 850 | 800 | 800 | 800 | 800 | 800 |
| | | | | | | | | | | |
| **C** | **Sales Quantity ( Ton )** | | | | | | | | | |
| 1 | LPG Bottle Sales Quantity (55% on P ) | Ton | - | 24,000 | 42,000 | 48,000 | 60,000 | 120,000 | 150,000 | 150,000 |
| 2 | LPG Bulk Sales Quantity ( 45% on P ) | Ton | - | 18,000 | 31,500 | 36,000 | 45,000 | 80,000 | 112,500 | 112,500 |
| | | | | | | | | | | |
| **D** | **Sales Income** | | | | | | | | | |
| 1 | LPG Bottle Sales Price ( USD / Ton ) | Ton | - | 24,000,000 | 39,900,000 | 43,200,000 | 54,000,000 | 108,000,000 | 135,000,000 | 135,000,000 |
| 2 | LPG Bulk Sales Price ( USD / Ton ) | Ton | - | 16,200,000 | 26,775,000 | 28,800,000 | 36,000,000 | 64,000,000 | 90,000,000 | 90,000,000 |
| **E** | **Total Sales Income** | | | 40,200,000 | 66,675,000 | 72,000,000 | 90,000,000 | 172,000,000 | 225,000,000 | 225,000,000 |
| **F** | **Sales Equivalent MMK ( '000 )** | | | 48,240,000 | 80,010,000 | 86,400,000 | 108,000,000 | 206,400,000 | 270,000,000 | 270,000,000 |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ခိုင်ဦး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# KHAING OO COMPANY LIMITED.

15

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# နိုင်ဦး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

ကုမ္ပဏီ၏အမည်သည် နိုင်ဦး ကုမ္ပဏီ လီမိတက်
ဖြစ်ပါသည်။

ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀၀၀၀၀၀၀

(ငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀.၀၀

တစ်သောင်း တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ )

ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် အာဏာရှိစေရမည်။

ဆောင်ရွက်ရသော ရည်ရွယ်ချက်များမှာ-

- စိုက်ပျိုးရေး၊ ကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- သစ်နှင့် သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- ငါး၊ ပုစွန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
- သတ္တုကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- မြေသြဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
- ဆေးဝါးနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
- ဆောက်လုပ်ရေးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
- လျှပ်စစ်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- စားသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- စိုက်ပျိုးရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သတ်ဆေးများရောင်းဝယ်ခြင်း
- ယန္တရားနှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- ကွန်ပျူတာနှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
- အစားအသောက်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
- ဆေးဝါးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
- အထည်အလိပ်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
- အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
- ဆေးဘက်ဆိုင်ရာ၊ ဓာတ်ခွဲကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
- စာရေးကိရိယာပစ္စည်းများနှင့် ပညာရေးအထောက်အကူ ရောင်းဝယ်ခြင်းပစ္စည်းများ၊
- ကုန်သွယ်ရေးဆိုင်ရာ ဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
- ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
- ခရီးသွားလာရေးလုပ်ငန်းနှင့် ယင်းနှင့် ဆက်သက်သည့် လုပ်ငန်းများ
- ဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
- ကုန်စည်ပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
- ဟိုတယ်ဖွင့်လှစ်ခြင်း လုပ်ငန်း၊
- ကျန်းမာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
- စီမံကိန်းသစ်များ၌ ဖြစ်ငမြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်း လုပ်ငန်းများ၊
- ကုန်စည်ရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
- စက်မှုနှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
- ယန္တရားနှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
- စိုက်ပျိုးရေး၊ ကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
- (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊ထုတ်လုပ်ခြင်း
- တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊ထုတ်လုပ်ခြင်း
- ငါးထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊ထုတ်လုပ်ခြင်း
- မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊ထုတ်လုပ်ခြင်း
- စားသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊ထုတ်လုပ်ခြင်း
- လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- ယန္တရားနှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
- စက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
- ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
- ဓာတ်ခွဲသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
- လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
- အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
- အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
- ဆောက်လုပ်ရေးလုပ်ငန်း
- ကျောက်မျက်လုပ်ငန်း
- ခရီးသွားလုပ်ငန်း
- ဟိုတယ်လုပ်ငန်း
- အသေးစား ငွေရေး ကြေးရေး လုပ်ငန်း
- စက်သုံးဆီနှင့်စားသုံးဆီအရည်အသွေးစစ်ဆေးရေးလုပ်ငန်း

ကုမ္ပဏီမှ သင့်တော်လျော်ကပ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကော်ပိုရေးရှင်း၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံ မှမဆို မြေမချေးယူရန် ။

ခြွင်းချက် ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ ဖြစ်စေ ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရား ဥပဒေ များ ၊ အမိန့်ကြော်ငြာစာများ ၊ အမိန့်များ က ခွင့် ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများ ကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန် ကာလ အားလျော်စွာ တည်မြဲနေသည့် တရား ဥပဒေပြဋ္ဌာန်းချက်များ ၊ အမိန့် ကြော်ငြာစာများ ၊ အမိန့်များနှင့် လျော်ညီ သင့်တော်ခြင်း သို့မဟုတ် ၊ ခွင့် ပြုထားရှိခြင်း ရှိမှ သာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ သည် ကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ကြသားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံကင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|
| ဦး ပွင့်ဆန်း<br>ကုန်သည်<br>အမှတ်(၃၄၈)၊ ဇေယျာဓေမာလမ်း၊<br>အမှတ်(၆)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၁၂/မရက(နိုင်)၀၀၇၁၈၆ | ၁၈၀၀ | (signature) |
| ဒေါ် ဝင်းမော်ထွန်း<br>ရွှေဘုံသာအရှေ့ပိုင်းရပ်၊ သစ်တပွေရပ်ကွက်၊<br>ချမ်းမြသာစည် ... မန္တလေးတိုင်းဒေသကြီး | ၈/ရနခ(နိုင်)၀၁၁၀၆၇ | ၁၆၀၀ | (signature) |
| ဦး ပြည့်ဖြိုးအောင်<br>ကုန်သည်<br>အမှတ်(၁၁/အေ)၊ ကုန်းမြင့်သာယာ၊<br>ကုန်းမြင့်သာယာလမ်း၊ ၇-မိုင်၊<br>မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ပဘတ(နိုင်)၀၀၀၂၇၄ | ၁၆၀၀ | |

နေ့စွဲ ၊ ခုနှစ်၊ လ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Aye

ဒေါ်အေးနိုင်နိုင်သက်(LLB) စဉ်-၉၇၀၃
တရားလွှတ်တော်ရှေ့နေ

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်ကာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ခိုင်ဦး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

| | | | |
|---|---|---|---|
| ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ | | ၅၀၀၀၀၀၀၀၀၀ | /-(ကျပ် |
| သန်းငါးရာ | တိတ်)ဖြစ်၍ ငွေကျပ် | ၁၀၀၀၀.၀၀ | /-(ကျပ် |
| တစ်သောင်း | ကိတ်)တန်အစုရှယ်ယာပေါင်း | ၅၀၀၀၀ | ခွဲထားပါသည်။ |

ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ယုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် စုတ်ပြဲပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ (၅၀) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦး ပွင့်ဆန်း

(၂) ဒေါ် ဝင်းမော်ထွန်း

(၃) ဦး ပြည့်ဖြိုးအောင်

တို့ဖြစ်ကြပါသည်။

ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်း ကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက် ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ ဝွင် ပေးအပ် ထားသော အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်သည်။ အာဏာသိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း ၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့(ခ်)များ ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့်ဝင် နောင်ရှိမည့်ဝင် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှု များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန် ၊ သို့မဟုတ် အစုရှယ်ယာများ ၊ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးမြောက်အောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော် လည်းကောင်း ၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း ၊ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန် ၊ ထို့အပြင် အဆိုပါ ကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကိုဖြစ်စေ ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၎င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ် သောမည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ [illegible]ပ်သော စာချုပ်စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားရုံး[illegible]ရေးယူ ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအမပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့်စပ်၍ ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ ၊မပါသည် ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့်စပ်၍ စီမံခန့်ခွဲထားရန် ၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ် များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏[illegible]ဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်း[illegible]နိုင်သည့် အာဏာနှင့် အခြားသော [illegible]ညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သော လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ပြ[illegible]ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၎င်းတို့နှင့်စပ်၍ စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင်

အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤပြင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံးဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ယင်းနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာ ရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့ သို့သော ဥာဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့် အညီ ထားသို ထိန်းသိမ်းဆောင်ရွက်ရမည် ။

(၁) ကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၎င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက်စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး

ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၇။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေများ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၈။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ် ရမည်။

ာက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့
ဦယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့်
ပြ်ထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|
| ဦး ပွင့်ဆန်း<br>ကုန်သည်<br>အမှတ်(၃၄၈)၊ ဗေယျာဓေမာလမ်း၊<br>အမှတ်(၆)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၁၂/မရက(နိုင်)၀၀၇၁၈၆ | ၁၈၀၀ | (signature) |
| ဒေါ် ဝင်းမော်ထွန်း<br>ရွှေဘုံသာအရှေ့ပိုင်းရပ်၊ သစ်တပွေရပ်ကွက်၊<br>ရေနံချောင်းမြို့ မကွေးတိုင်းဒေသကြီး | ၈/ရနခ(နိုင်)၀၁၁၀၆၇ | ၁၆၀၀ | (signature) |
| ဦး ပြည့်ဖြိုးအောင်<br>ကုန်သည်<br>အမှတ်(၁၁/အေ)၊ ကုန်းမြင့်သာယာ၊<br>ကုန်းမြင့်သာယာလမ်း၊ ၇-မိုင်၊<br>မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/ပဘတ(နိုင်)၀၀၀၂၇၄ | ၁၆၀၀ | |

နေ့စွဲ ၊ ခုနှစ်၊ လ၊ ရက်။

[illegible]တ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဒေါ် အေးခိုင်ခိုင်သက်(LL.B) စဉ်-၉၇၁၁
တရားလွှတ်တော်ရှေ့နေ

(၃) သစ်သားနှင့်သစ်သားထည်ပစ္စည်းထုတ်ကုန်ဧရိယာ

(၁) သစ်သားထည်ထုတ်လုပ် ကုတ်ပိုးရုံ ဧရိယာ = ၁၅၀ ပေ × ၃၀၀ ပေ

(၂) သစ်လုံး၊ သစ်ခွဲသားထားသိုကိုင်တွယ်ရန်လွင်ပြင် = ၂၀၀ ပေ × ၃၀၀ ပေ

မြေကွက်ဧရိယာ = ၃၅၀' × ၃၀၀' = ၁၀၅,၀၀၀ စတုရန်းပေ

(၄) ဘိလပ်မြေထားသိုကိုင်တွယ်ရန်မြေကွက်

ဘိလပ်မြေဆိုင်လို (အချင်း ၃၅ ပေ၊ အမြင့် ၁၀၀ ပေ)နှင့်

ဆက်နွယ်စက်ပစ္စည်းကိရိယာများ = ၁၂ လုံး

(ဘိလပ်မြေထုပ်ပိုးဆိုင်ရာစက်ကိရိယာများအပါအဝင်) မြေကွက်ဧရိယာ = ၄၀၀' × ၃၀၀'

= ၁၂၀,၀၀၀ စတုရန်းပေ

(၅) ကုန်သေတ္တာလွင်ပြင်နှင့်ကုန်သေတ္တာရွေးထုတ်စိစစ်ရေးရုံ

(ကုန်သေတ္တာသွပ် ပစ္စည်းမျိုးစုံ ကိုင်တွယ်ရန်)

၅၅ ပေအလယ်ဗဟိုဖြတ်သန်းလမ်းနှင့် ဘေးဘက်ပိုက်လိုင်း

ဧရိယာ ၁၅ပေအပါအဝင် ဧရိယာပေါင်း = ၆၅၅' × ၆၅၅' = ၄၂၉,၀၂၅ စတုရန်းပေ

**<u>စီမံကိန်းတတိယအဆင့်</u>**

(၇) ရေရှည်စီမံကိန်းအဖြစ် အနာဂါတ်ကာလတွင် ကုန်သေတ္တာ

ကိုင်တွယ်မှုလုပ်ငန်းတိုးချဲ့နိုင်ရန် ဧရိယာ = ၂၅၀' × ၃၀၀' = ၇၅,၀၀၀ စတုရန်းပေ(အနည်းဆုံး)

= ၃၁၅' × ၃၀၀' = ၉၄,၅၀၀ စတုရန်းပေ(အများဆုံး)

(၈) ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းကို ရေရှည်စီမံကိန်းဖြင့်

အနာဂါတ်ကာလတွင် တိုးချဲ့နိုင်ရန်ဧရိယာ= ၂၅၀' × ၂၈၅' = ၇၁,၂၅၀ စတုရန်းပေ(အနည်းဆုံး)

၃၁၅' × ၂၈၅' = ၈၉,၇၇၅ စတုရန်းပေ(အများဆုံး)

**ဆိပ်ကမ်းဝင်းအတွင်းဝင်းထရံများ၊ ဂိတ်တံခါးများ၊ ရေမြောင်းနှင့် အရေးပါသောလုပ်ငန်းပိုင်းများနှင့် ကုန်ကိုင်တွယ် စက်ကိရိယာများ**

၂၈။ ဆိပ်ကမ်းဝင်းအတွင်းဆက်သွယ်သွားလာမှုအတွက် လိုအပ်သောအတွင်းလမ်းများကို အထက်စာပိုဒ်(၂၇)(င) နှင့်(၅) တွင်ဖော်ပြပြီးဖြစ်ပါသည်။ ဆိပ်ကမ်းထူထောင်မှုတွင်မပါမဖြစ်သော ဆိပ်ကမ်းဝင်းထရံများ၊ ဂိတ်တံခါးများ၊ ရေမြောင်းများ၊ လုံခြုံရေးအဆောက်အဦများနှင့်မျှော်စင်များ၊ လျှပ်စစ်မီးတိုင်စင်များနှင့် လုံခြုံမှုအတွက်ခြံစည်းရိုးများကို လုပ်ငန်းပမာဏသီးခြားစီထုတ်နှုတ်ဖော်ပြခြင်းမပြုဘဲ လုပ်ငန်းရပ်စုတခုတည်းဖြင့် အထက်စာပိုဒ်(၂၇)၌ ဖော်ပြထားသော လုပ်ငန်းပိုင်းအသီးသီးတွင်ပါဝင်ပါသည်။ လုပ်ငန်းဦးစားပေးအဆင့်အလိုက်အကောင်အထည် ဖော်ရာတွင်လိုအပ်သလို ဆောက်လုပ်သွားမည်ဖြစ်ပါသည်။

၂၉။ ဆိပ်ကမ်းကျောထောက်နောက်ခံလွင်ပြင်၌ ကုန်စည်များကိုင်တွယ်ပို့ဆောင်ရန်လိုအပ်သော ကုန်ကိုင်တွယ် စက်ကိရိယာများ (Cargo Handling Equipment) နှင့် ကုန်ပို့ဆောင်ရေးယာဉ်များ (Cargo Transporters/ Vehicles) ကိုလုပ်ငန်းသဘာဝမျိုးတူအသီးသီးနှင့် လိုက်လျောညီထွေအောင်ထားရှိဆောင်ရွက်မည်ဖြစ်ပါသည်။

**ကုန်းပိုင်းအဆောက်အဦနှင့်အဆောက်အအုံများအတွက် အဓိကဆောက်လုပ်ရေးပစ္စည်းများလိုအပ်ချက်**

၃၀။ ကုန်းပိုင်းလုပ်ငန်းကဏ္ဍတွင်အကောင်အထည်ဖော်မည့်လုပ်ငန်းများမှာ အမျိုးအစားနှင့်သဘာဝမတူညီကြသည့်အတွက်အဓိကဆောက်လုပ်ရေးပစ္စည်းလိုအပ်ချက်များမှာလည်း ကွဲပြားပါသည်။ ထို့ပြင် စီမံကိန်းလုပ်ငန်းတွင်ကိုင်တွယ်မည့်ကုန်စည်များအနက် သဘာဝချင်းမတူသောကုန်စည်အချို့အတွက် လိုအပ်မည့်ပစ္စည်းကိရိယာများမှာလည်း သီးသန့်ကျွမ်းကျင်မှုဖြင့် ထုတ်လုပ်တပ်ဆင်ရသဖြင့် အဓိကဆောက်လုပ်ရေးပစ္စည်းလိုအပ်ချက်ပမာဏများကို ကြိုတင်ပြုစုရန်ခက်ခဲပါသည်။ စီမံကိန်းတွင်ပါဝင်သော ကုန်းပိုင်းအဆောက်အဦအချို့ကိုလည်း Prefabricated အစိတ်အပိုင်းများအား အစုပြုံအလိုက်မှာယူဆောက်လုပ်ရမည် ဖြစ်သဖြင့် တင်ဒါများခေါ်ယူပြီးချိန်မှသာ ပစ္စည်းစာရင်းများကိုသိရှိနိုင်မည်ဖြစ်ပါသည်။ သို့ဖြစ်၍ ဆိပ်ခံတံတား တည်ဆောက်ရေးလုပ်ငန်းကဲ့သို့ အဓိကဆောက်လုပ်ရေးပစ္စည်းများစာရင်းကို ဖော်ပြခြင်းမပြုတော့ဘဲ အထက်စာပိုဒ်၌ ဖော်ပြထားသောလုပ်ငန်းအမျိုးအစားနှင့်မြေကွက်လျာထားချက်များကိုသာ တင်ပြပါသည်။

**ကုန်းပိုင်းလုပ်ငန်းကဏ္ဍ အကောင်အထည်ဖော်မှုလုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံရမည့်ငွေကြေးပမာဏ ခန့်မှန်းချက်**

၃၁။ အထက်စာပိုဒ်(၂၇)၌ ဖော်ပြထားသော ကုန်းပိုင်းအဆောက်အဦများနှင့် အဆောက်အအုံများကို ဆောက်လုပ်အကောင်အထည်ဖော်ရန် ရင်းနှီးမြှုပ်နှံရမည့်ငွေစုစုပေါင်းမှာပမာဏကြီးမားပြီး နိုင်ငံခြားသုံးငွေ ၄၅% ခန့်ပါဝင်မည်ဟုခန့်မှန်းထားပါသည်။ လုပ်ငန်းရပ်တစ်ခုချင်းအလိုက် ကုန်ကျစရိတ်အသီးသီးကိုကြိုတင်ခန့်မှန်းဖော်ပြခြင်းမပြုဘဲ ခေတ်ကာလပေါက်ဈေးနှုန်းများနှင့် ကျွမ်းကျင်ဆိုင်ရာလုပ်ငန်းအတွေ့အကြုံအရ စီမံကိန်းရှေ့ပြေးကုန်ကျစရိတ်ကြိတ်နှုန်း (Project Advanced Estimate Cost Average Rate) PAE Cost ကိုသာ အခြေခံလျက်ရင်းနှီးမြှုပ်နှံရန်လိုအပ်မည့်ငွေကြေးပမာဏကိုသိသာနိုင်ပါရန် အောက်တွင်ဖော်ပြထားပါသည် -

**<u>စီမံကိန်းပထမအဆင့်</u>**

စာပိုဒ်(၂၇)(က)မှ(င) အထိလုပ်ငန်းရပ် ၁၀မျိုးအတွက် PAE Cost ပျမ်းမျှနှုန်း
တစ်စတုရန်းပေလျှင် ကျပ် ၄၀၀၀၀/-အရ ကုန်ကျမည့်ငွေပေါင်း
= ၄၇၆၀၂၅ × ကျပ် ၄၀၀၀၀/- = ၁၉၀,၄၁၀.၀ သိန်း

**<u>စီမံကိန်းဒုတိယအဆင့်</u>**

စာပိုဒ်(၂၇)(စ) မှ (ဍ) အထိလုပ်ငန်းရပ် ၁၁-မျိုးအတွက် PAE Cost ပျမ်းမျှနှုန်း
တစ်စတုရန်းပေလျှင် ကျပ် ၅၀၀၀၀/-အရ ကုန်ကျမည့်ငွေပေါင်း
= ၁၀၅၉၇၇၅× ကျပ် ၅၀၀၀၀/- = ၅၂၉,၈၈၇.၅၀ သိန်း
စီမံကိန်းပထမအဆင့်နှင့် ဒုတိယအဆင့်အကောင်အထည်ဖော်မှု
တည်ဆောက်ရေးလုပ်ငန်းပိုင်းအတွက် ရင်းနှီးမြှုပ်နှံရမည့်ငွေပေါင်း = ၇၂၀,၂၉၇.၅၀ သိန်း
(ကျပ် ၂၈၈,၁၁၉.၀ သိန်းနှင့်ညီမျှသောနိုင်ငံခြားသုံးငွေအပါအဝင်)

စီမံကိန်းတတိယအဆင့်ဖြင့်လျာထားသောလုပ်ငန်းရပ် ၂ခုကိုမူ ကုန်ကျစရိတ်ခန့်မှန်းတွက်ချက်ခြင်းမပြုထားပါ။

ကုန်းပိုင်းလုပ်ငန်းများဆောက်လုပ်အကောင်အထည်ဖေါ်မှုကာလလျာထားချက်

၃၂။ စီမံကိန်းပထမအဆင့်နှင့် စီမံကိန်းဒုတိယအဆင့်ပါလုပ်ငန်းရပ်များကို ဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်းနှင့်တစ်ပြိုင်တည်းဆောက်လုပ်အကောင်အထည်ဖေါ်မည်ဖြစ်ရာ ကုန်းပိုင်းလုပ်ငန်းကဏ္ဍလုပ်ငန်းများကိုလည်း အောက်ပါအတိုင်းအကောင်အထည်ဖေါ်မှုကာလများလျာထားပါသည် -

**စီမံကိန်းပထမဆင့်**

**(က)ရေပိုင်းလုပ်ငန်းကဏ္ဍလုပ်ငန်းများ**

(က)ဆိပ်ခံတံတားတည်ဆောက်ခြင်း (စတင်ချိန်မှ ၂နှစ် ၆လ အတွင်း)
၂-နှစ် ၆လ ကာလ

(ခ)ကမ်းပါးထိန်းတာရိုးတံတိုင်းဆောက်လုပ်ခြင်း (စတင်ပြီး ၁နှစ်မှ ၂နှစ်အတွင်း)
၁-နှစ်ကာလ

ရေပိုင်းလုပ်ငန်းကဏ္ဍအကောင်အထည်ဖေါ်ခြင်း =၂နှစ်ကာလ

**(ခ) ကုန်းပိုင်းကဏ္ဍလုပ်ငန်းများ**

(၁)ဆိပ်ကမ်းဝင်းထရံကာရံခြင်း၊ အတွင်းလမ်းနှင့်
ရေမြောင်းများဖေါက်လုပ်ခြင်းလိုအပ်သည့်အမြင့်အထိ
သဲဖို့ခြင်းအပါအဝင်) = (စတင်ချိန်မှ ၁နှစ် ၆လအတွင်း)
= ၁နှစ် ၆လ ကာလ

(၂)မော်တော်ယာဉ်များ၊ ကုန်သယ်ယာဉ်များရပ်နားရန်
လွင်ပြင်အခင်းနှင့် ကုန်ကိုင်တွယ်စက်ကိရိယာနှင့်
ပြုပြင်ထိန်းသိမ်းရေးရုံဆောက်လုပ်ခြင်း = (ဒုတိယနှစ်စမှ တတိယနှစ်ဝက်အတွင်း)
= ၁နှစ် ၆လ ကာလ

(၃)အုပ်ချုပ်ကွပ်ကဲမှုရုံး၊ ဆိပ်ကမ်းအထောက်အကူပြုအဆောက်အဦ
များနှင့်အဆောက်အအုံများဆောက်လုပ်ခြင်း = (ပထမနှစ်ဝက်မှ ဒုတိယနှစ်ကုန်အတွင်း)
= ၂နှစ် ကာလ

(၄)အထွေထွေကုန်စည်သိုလှောင်ရုံကြီးများနှင့် အထွေထွေ
ကုန်စည်လွင်ပြင်ဆောက်လုပ်ခြင်း = (ပထမနှစ်ဝက်မှ တတိယနှစ်ဝက်အထိ) =၂နှစ်ကာလ
ကုန်းပိုင်းလုပ်ငန်းကဏ္ဍအကောင်အထည်ဖေါ်ခြင်း = ၂နှစ် ၆လ ကာလ

(ဂ) စက်ကိရိယာများ၊ ကုန်ကိုင်တွယ်ကိရိယာနှင့်
ကုန်သယ်ယာဉ်များဝယ်ယူတပ်ဆင်ခြင်း = (ဒုတိယနှစ်မှတတိယနှစ်ဆုံးအတွင်း) = ၂ နှစ်ကာလ

**စီမံကိန်းဒုတိယအဆင့်**

(ဃ) အရေးပေါ်မီးငြိမ်းသတ်ရန်ရေကန်ဖေါက်လုပ်ခြင်း၊
ရေစက်ရုံဆောက်လုပ်ခြင်း = (ဒုတိယနှစ်ဝက်မှတတိယနှစ်ဝက်အတွင်း) = ၁နှစ်ကာလ

(င) ကုန်သေတ္တာလွင်ပြင်နှင့် ကုန်သေတ္တာရွေးထုတ်ရေးရုံ
ဆောက်လုပ်ခြင်း = (တတိယနှစ်မှ စတုတ္ထနှစ်) = ၂နှစ်ကာလ

(စ) ဘိလပ်မြေဆိုင်လိုမျာနှင့် ထုပ်ပိုးအလုပ်ရုံ
ဆောက်လုပ်ခြင်း (ဆိပ်ခံတံတားနှင့် ဘိလပ်မြေ
ဆိုင်လိုများအကြားပို့ဆောင်ရေး၊ ပိုက်လိုင်းများအပါအဝင်) = (တတိယနှစ်မှ စတုတ္ထနှစ်ဝက်အထိ)
= ၁နှစ် ၆လ ကာလ

(ဆ) စက်မှုဇုံထုတ်ပစ္စည်းများနှင့် သစ်သား၊ သစ်သားထည်များထားသို
ကိုင်တွယ်ရေးလုပ်ငန်းများ (သိုလှောင်ရုံကြီးများဆောက်လုပ်ခြင်း
အပါအဝင်) - (စတုတ္ထနှစ်နှင့် ပဉ္စမနှစ်) = ၂နှစ်ကာလ

ကုန်းပိုင်းလုပ်ငန်းကဏ္ဍအကောင်အထည်ဖော်ခြင်း = ၄ နှစ်ကာလ

စီမံကိန်းတစ်ခုလုံးအကောင်အထည်ဖော်မည့် စီမံချက်လျာထားမှုဇယားကို <u>နောက်ဆက်တွဲ(ဃ)</u> အဖြစ် ဖော်ပြထားပါသည်။

**ပတ်ဝန်းကျင်နှင့်ပြည်သူတို့အပေါ်အကျိုးသက်ရောက်မှုများကို စိစစ်အကဲဖြတ်ခြင်း**

၃၃။ ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှုအခြေအနေအကဲဖြတ်ခြင်း(E.I.A - Environment Impact Assessment) : အဆိုပြုစီမံကိန်းလုပ်ငန်း၏ပဓာနမှာ အထွေထွေကုန်စည်နှင့်ကုန်သေတ္တာကုန်စည်ဆိုင်ရာဆိပ်ကမ်းလုပ်ငန်းဖြစ်၍ အဓိကအားဖြင့် ကုန်စည်ပစ္စည်းများဖြန့်ဖြူး ပို့ဆောင်ရေးလုပ်ငန်း ဖြစ်ပါသည်။ ယင်းကုန်စည်များကို ကိုင်တွယ်ရာတွင် ဆိပ်ခံတံတားနှင့်ကုန်စည်လှောင်ပြင်အကြားစနစ်တကျကိုင်တွယ် ပို့ဆောင်မည်ဖြစ်၍ ဆိပ်ခံတံတားပေါ်တွင် ရေ-လေ ညစ်ညမ်းမှုများဖြစ်နိုင်ဖွယ်မရှိပါ။ ယင်းကုန်စည်တို့ကို ဆိပ်ခံတံတား၌လည်း သမရိုးကျဆိပ်ကမ်းကုန်ကိုင်တွယ်မှုစနစ်ဖြင့် ပို့ဆောင်မည်ဖြစ်သဖြင့် ရေ-လေ ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်စေနိုင်ပါ။ ဆိပ်ကမ်းဝင်းအတွင်း အရေးပေါ်မီးငြိမ်းသတ်ရန် ရေလှောင်ကန်နှင့်မီးသတ်တပ်ဖွဲ့၊ ရေချိုကန်တို့ထားရှိခြင်းဖြင့် ပတ်ဝန်းကျင်အခြေအနေကို ထိန်းသိမ်းထားမည်ဖြစ်ပါသည်။

၃၄။ ပြည်သူတို့အပေါ်အကျိုးသက်ရောက်မှုအနေအထားအကဲဖြတ်ခြင်း(S.I.A - Social Impact Assessment): စီမံကိန်းအကောင်အထည်ဖော်ရန်အဆိုပြုသောတည်နေရာမှာ ကျောက်တန်းမြို့နယ်၊ သီလဝါကျေးရွာ အုပ်စု၊ ဆိပ်ကမ်းမြေနေရာဖြစ်သော်လည်း ပြည်သူတို့၏လူမှုရေးဆိုင်ရာ နစ်နာဆုံးရှုံးမှု၊ ပျက်စီးမှုများ မရှိစေရန် အဆိုပြုဆိပ်ကမ်းထူထောင်ခြင်းနှင့်ဆက်နွယ်သည့် အနီးဝန်းကျင်ရှိကျေးရွာနှင့် လိုအပ်သလိုညှိနှိုင်းဆောင်ရွက်မည်ဖြစ်ပါသည်။ မြို့နယ်နေပြည်သူတို့အတွက် အလုပ်အကိုင်အခွင့်အလမ်းများပေါ်ထွက်လာသည့် အကျိုးသက်ရောက်မှုများရှိမည်ဟု သုံးသပ်ပါသည်။ E.I.A နှင့် S.I.A ပတ်သက်၍ ကျွမ်းကျင်သူ------------အဖွဲ့အစည်း၏ စိစစ်သုံးသပ်အကဲဖြတ်အစီရင်ခံစာကို ပူးတွဲတင်ပြပါသည်။

**ဆိပ်ကမ်းထူထောင်ရန်မြေငှားအသုံးချမှုဆိုင်ရာကိစ္စရပ်များ**

၃၅။ မြေငှားရမ်းအသုံးချမှုပရီမီယံကြေးနှင့် မြေငှားရမ်းမှုပဋိညာဉ်စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့မှစ၍ နှစ်စဉ်စုစုပေါင်းဝင်ငွေအပေါ်တွင် လုပ်ငန်းဆောင်ရွက်မှုကာလအပိုင်းအခြားအလိုက် ညှိနှိုင်းအတည်ပြုမည့် နှုန်းထားများအတိုင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုသည့် နိုင်ငံတော်အဖွဲ့အစည်း/မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ပေးသွင်းပါမည်။ အဆိုပါပရီမီယံကြေးနှင့် နှစ်စဉ်ပေးသွင်းရမည့်ဝင်ငွေအပေါ်နှုန်းထားများကို သက်ဆိုင်ရာနိုင်ငံတော် အဖွဲ့အစည်းနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်တို့နှင့် ညှိနှိုင်းသတ်မှတ်မည်ဖြစ်ပါသည်။

အဆိုပြုဆိပ်ကမ်းလုပ်ငန်းဆောင်ရွက်ခွင့်ကို အနည်းဆုံးသက်တမ်းနှစ်ပေါင်း ၅၀ သို့မဟုတ် အာဏာပိုင်အဖွဲ့အစည်းက သတ်မှတ်သောနှစ်ပေါင်း ၅၀ထက်ပိုသောကာလရရှိလိုပါကြောင်းနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်က သတ်မှတ်ပေးသောစနစ် (ဥပမာ-BOT) ဖြင့်စာချုပ်ဆောင်ရွက်လိုပါကြောင်းတင်ပြအပ်ပါသည်။

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်

၃၆။ အဆိုပြုဆိပ်ကမ်းထူထောင်၍လုပ်ငန်းဆောင်ရွက်ခွင့်နှင့် ဆက်နွယ်၍နိုင်ငံတော်၏အာဏာပိုင် အဖွဲ့အစည်း/မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ကို တောင်းခံနိုင်ရန်လိုအပ်သော အခြားအချက် အလက်များကို ဆောင်ရွက်ပေးရန်ရင်းနှီးမြှုပ်နှံသူအနေဖြင့် သဘောတူညီတာဝန်ယူပါသည်။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှလိုအပ်သောလုပ်ငန်းလုပ်ကိုင်ခွင့်ရရှိရန်အတွက် ဆောင်ရွက်ပေးနိုင်ပါရန် သက်ဆိုင်ရာစာရွက်စာတမ်းများနှင့်တကွ မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

ရက်စွဲ။ ၁၅-၀၃-၂၀၁၆

(-------------)
Managing Director
Khaing Oo Co.,Ltd.

နောက်ဆက်တွဲ(က)

ကုန်ကိုင်တွယ်စက်ကိရိယာကြီးများနှင့် ပို့ဆောင်ရေးယာဉ်များ၏ စံချိန်စံညွှန်းနှင့် အလေးဝန်များ

စီမံကိန်းပထမအဆင့်

(၁) Wharfside Multipurpose Portal Crane (MPC)

ဆိပ်ခံထိပ်သုံးဘက်စုံကုန်စည်ကိုင်တွယ်ဝန်ချီစက် - ၁ စုံ

- ဝန်ဆွဲတင်နိုင်စွမ်း (အများဆုံး)
  Rated Capacity under Spreader for Containers = တန် ၃၀.၅ (ကုန်သေတ္တာကိုင်တွယ်)
  Rated Capacity under Hook for General Cargo = တန် ၃၆ (အထွေထွေကုန်စည်)
  Rated Capacity under Bucket/Grab for Bulk Cargo= တန် ၁၅ (စုပြုံဝမ်းဖြည့်ကုန်စည်ခြောက်)
- ရေပြင်ဘက်နှင့် အနောက်ဘက်ဆိပ်ခံအတွင်းဘက်
  ကုန်ဆွဲတင်နိုင်သည့်အကွာအဝေး (Operating Radius) = ၁၀ မှ ၃၀ မီတာ
- အထက်-အောက်ကုန်ဆွဲတင်နိုင်သည့်အကွာအဝေး
  သံလမ်းပေါ်မှအထက်သို့ (Hoist above rail) = ၂၅ မီတာ
  သံလမ်း level မှ သင်္ဘောဝမ်းတွင်းသို့ (Depth below rail) = ၁၅ မီတာ
- Rail Gauge = ၁၀.၅ မီတာ
- Clearance between legs along rail = ၁၁.၀ မီတာခန့်
- ကုန်သေတ္တာကိုင်တွယ်နိုင်စွမ်း - ၁ နာရီလျှင် TEU ၁၀ မှ ၁၅ ယူနစ် (ကုန်သေတ္တာ)
- ဝန်ချီစက်ရွေ့လျားမှုနှင့် ကုန်ကိုင်တွယ်မှုအတွက် လျှပ်စစ်ဓါတ်အား လိုအပ်သည်။
  MPC ဝန်ချီစက်အလေးချိန် = တန် ၄၂၀ ခန့်
  Corner Legs & Wheels = 4 legs; 8 wheels per leg
  Load per wheel = ၂၆.၅ တန် (Working condition Wind 16 m/sec)
  = ၃၀.၆ တန် (မုန်တိုင်းကာလ - Wind speed 36 m/sec)

(၂) Conventional Mobile Crane သမရိုးကျသုံး

တာယာဘီးတပ်ဝန်ချီစက် - ၅၀ တန်စွမ်းအား - ၁ စီး

(ဆိပ်ခံတံတားနှင့် ကျောထောက်နောက်ခံလွင်ပြင်တို့၌ လိုအပ်သလိုအသုံးပြုရန်အတွက်)

**Kobelco RK 450 Rough Terrian Crane (Guide as Basis for Design Purpose) -** ၂ စီး

45-Ton at 3.0 m operating radius with 10.2 m Boom.

27-Ton at 4.0 m operating radius with 10.2 m Boom.

Wheel /Axle spacing = 4,820 mm

Overall Width = 2,900 mm

Crane Weight - Gross Vehicle Mass = 37,500 kg

Front or Rear Axle Loads = 18,750 kg

Total Laden Vehicle Mass = 82,570 kg (lifting 45,000 kg at 3.0 m operating radius)

Front & Rear Axle Laden Loads = 41,285 kg

(ဆိပ်ခံတံတားနှင့် လွင်ပြင် Miscellaneous ကုန်စည်များအတွက်)

မှတ်ချက်။ စီမံကိန်းကနဦးကာလပိုင်းတွင် ပင်လယ်ကူးသင်္ဘောကြီးများပါ ကုန်တင်ဝန်ချီစက် (Ship Derrick) များကိုလည်း အသုံးပြုကိုင်တွယ်မည်ဖြစ်၍ အထက်ပါ ဝန်ချီစက် ၂မျိုးဖြင့် ကုန်စည်ကိုင်တွယ်မှုလုပ်ငန်းကို ဆောင်ရွက် မည်ဖြစ်သည်။

---

(၃) သမရိုးကျပို့ဆောင်ရေး ကုန်သယ်မော်တော်ယာဉ်များ

H-40 Series Truck, 3 Axles (10 wheels) class or equivalent

မော်တော်ယာဉ် = ၂ စီး

(ဆိပ်ခံတံတားနှင့် လွင်ပြင်အကြားပို့ဆောင်ရန်)

ကုန် + ယာဉ် = တန် ၄၀

Rear Axle Wheel Load = ၃၂.၀ တန်

(၄) Port Tractor & Trailer ဝန်ဆွဲယာဉ်နှင့် နောက်တွဲယာဉ် = ၂ စုံ

(ဆိပ်ခံတံတားနှင့်လွင်ပြင်အကြားရှည်လျားသောကုန်စည်များပို့ဆောင်ရန်)

(၅) Dry Bulk Cargo ပို့ဆောင်ရေး Pipe Line Network နှင့် Pumping Units and associated items သင်္ဘောနှင့် ကုန်စည်လွင်ပြင်အကြား ပိုက်လိုင်းများဖြင့် ဆီစုပ်တင်စွမ်းအားကောင်းစက်များကို အသုံးပြု၍ ပို့ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ရန်စဉ်းစားထားပါသည်။ ယင်းပိုက်လိုင်းများနှင့် စက်ပစ္စည်းကိရိယာများ၏ အလေးဝန်ကိုခံနိုင်စွမ်း ရှိစေရန်နှင့် Truck, Tractor - Trailer များ၏ဝန်အလေးများကို ခံနိုင်စေရန်တည်ဆောက်မည်ဖြစ်သည်။ U.D.L (Uniformly Distributed Load) 440 lb/sft (2.15 tonne/sq.m) on Quay Apron, For Trestle & Access Pier and U.D.L 440 lb/sft (2.15 tonne/sq.m) would be ample for Installation of Elevated Conveyor system (if needed), Pipe Line Network and transport of cargo by Tractor & Trailer & Trucks.

**စီမံကိန်းဒုတိယအဆင့်**

(၁) Quayside Gantry Container Crane - ၁ စီး

(ဆိပ်ခံတံတားအတွက်)

- ဝန်ဆွဲတင်နိုင်စွမ်း (စတုတ္ထမျိုးဆက် QGC Crane)
  - Rated Capacity Under Spreader =တန် ၄၀
  - Rated Capacity Under Cargo Beam =တန် ၅၀
- ရေပြင်ဘက်ထွက်၍ ဆွဲတင်နိုင်သည့်အကွာအဝေး (Outreach) =၄၀.၀ မီတာ
- နောက်ဘက်ဆိပ်ခံအတွင်းဘက်ဆွဲတင်နိုင်သည့်အကွာအဝေး (Back reach) =၁၅.၀ မီတာ
- အထက်-အောက် ကုန်ဆွဲတင်နိုင်သည့်အကွာအဝေး
  - သံလမ်းပေါ်မှအထက်သို့ (Hoist above rail) =၃၀.၀ မီတာ
  - သံလမ်း level မှ သင်္ဘောဝမ်းတွင်းသို့ (Depth below rail) =၁၅.၀ မီတာ
- Rail Gauge =၁၆.၃ မီတာ
- Clearance between legs along rails =၁၆.၀မီတာ (ခန့်)
- ကုန်သေတ္တာကိုင်တွယ်နိုင်စွမ်း - ၁ နာရီလျှင် TEU ၁၅-၃၀ ယူနစ်

- ဝန်ချီစက်ရွေ့လျားမှုနှင့် ကုန်ကိုင်တွယ်မှုအတွက် လျှပ်စစ်ဓါတ်အား လိုအပ်သည်။

| | |
|---|---|
| QGC ဝန်ချီစက်အလေးချိန် | = တန် ၇၀၀ |
| Corner Legs | = 4 legs ; 10 wheels per leg |
| Load per wheel | = ၃၀.၀ တန် (Working condition Wind 16 m/sec) |
| | = ၃၄.၅ တန် (မုန်တိုင်းကာလ - Wind speed 36 m/sec) |

(၂) Conventional Mobile Crane သမရိုးကျသုံး တာယာဘီးတပ်ဝန်ချီစက် - ၅၀ တန်စွမ်းအား = ၂ စီး
SANY TRUCK CRANE 50 Ton (QY 50 C) (Guide as Basis for Design Purpose) \ or equivalent

Boom = 11.5 m - Fully extended Boom 42.5 m
- Fully extended Jib 58.5 m

Gross Weight = 42.0 tonne;
Front 2 Axles Load 16.0 tonne
Rear 2 Axles Load 26.0 tonne
Outriggers- Longitudinal = 6.0 m
Transverse = 7.2 m
Turning Radius = 11.0 m

(၃) H-40 series Truck မော်တော်ယာဉ် = ၄ စီး
(၄) Port Tractor & Trailer = ၂ စုံ

စက်ကိရိယာများနှင့် ပို့ဆောင်ရေးယာဉ်များ ဝယ်ယူတပ်ဆင်/ထားရှိအသုံးပြုရန် ရင်းနှီးမြှုပ်နှံရမည့် ငွေပမာဏများ ခန့်မှန်းချက်

(က) စီမံကိန်းပထမအဆင့်

(၁) Wharfside Multipurpose Portal Crane, 36 ~ 40 ton ၁ စီး = ကျပ် ၃၅,၅၀၀.၀ သိန်း

(၂) Kobelco RK 450 Rough Terrain Crane, 45 Ton, Rubber Tyred or equivalent ၁ စီး = ကျပ် ၅,၀၀၀.၀ သိန်း

(၃) H - 40 Series Truck, 3 Axles (10 wheels) Vehicle + Cargo = 40 Ton ၂ စီး = ကျပ် ၁,၀၀၀.၀ သိန်း

(၄) Port Tractor & Trailer, 36 Ton, 12.8 m × 2.48 m × 1.442 m high ၂ စုံ = ကျပ် ၂,၄၀၀.၀ သိန်း

စီမံကိန်းပထမအဆင့် ရင်းနှီးမြှုပ်နှံရမည့်ငွေပမာဏ = ကျပ် ၄၃,၉၀၀.၀ သိန်း

(ခ) စီမံကိန်းဒုတိယအဆင့်

(၁) Quayside Gantry Container Crane, Rated Capacity under Spreader 40 ton Outreach 40 m, Back-reach 15 m ၁ စီး = ကျပ် ၅၀,၀၀၀.၀ သိန်း

(၂) SANY Truck Crane, 50 Ton, Multi-axles or equivalent ၂ စီး = ကျပ် ၁၀,၀၀၀.၀ သိန်း

(၃) H - 40 Series Truck, 3 Axles (10 wheels) Vehicle + Cargo = 40 Ton ၄ စီး = ကျပ် ၂,၀၀၀.၀ သိန်း

(၄) Port Tractor & Trailer, 36 Ton, 12.8 m × 2.48 m × 1.442 m high ၂ စုံ = ကျပ် ၂,၄၀၀.၀ သိန်း

စီမံကိန်းဒုတိယအဆင့် ရင်းနှီးမြှုပ်နှံရမည့်ငွေလျာထားချက် = ကျပ် ၆၄,၄၀၀.၀ သိန်း

နောက်ဆက်တွဲ(၁)

သီလဝါကမ်းနားဒေသနှင့် ရန်ကုန်မြစ်ဝှမ်းဒေသ Environment Conditions သဘာဝဝန်းကျင်အခြေအနေ ဆိုင်ရာအချက်များ

| | | |
|---|---|---|
| Temperature (Nominal) | : | Minimum + 20° C<br>Maximum + 40° C |
| Rainfall Intensity (Maximum) | : | Annual 200 inches and Temporal Mean Point Rainfall Intensity (Maximum) may be 3 inches per hour for a continuous duration of 2 hours at exceptional weather. |
| Relative Humidity | : | 90 % ~ 95 % during Monsoon seasons, Maximum Possible 98 % |
| Wind Speeds | : | Surface wind 45 ~ 50 m.p.h - Normal weather (Maximum) but during Exceptional Storms / Cyclones, wind speed of 120 m.p.h may occur. During normal cyclone a wind speed of 80 m.p.h (Beaufort Scale 12 / Hurricane - British Std.) could be expected. |
| Earthquake or Seismic Factor | : | Magnitude (Mb) 5.0 - No past record is available for Thilawa region (For Design Purpose only.) For Yangon, Maximum Magnitude recorded on 28.6.1925, at 13 hours 4 seconds is Mb 6.5. |
| Atmospheric Air | : | Normal sea breeze or Estuary mouth fresh air. |

Construction of RC Fixed Jetty
Thilawa Foreshore at Plot 23, Yangon
Bill of Quantities of Local Materials and Costs
Based On Access Pier

**List ( 1 )**

| Sr.No. | Particulars | Unit | Qty, | Rate | Amount ( Ks. ) | Remarks |
|---|---|---|---|---|---|---|
| 1 | Concrete G-40 N | $M^3$ | 180.50 | - | - | |
| 2 | Concrete G-40 N | $M^3$ | 877.50 | - | - | |
| 3 | Cement Concrete G-25 N ( 3625-psi ) | $M^3$ | 58.50 | - | - | |
| 4 | River Sand | Sub | 2,660.00 | 12,000 | 31,920,000 | |
| 5 | Cement ( Storage ) | Bag | 75,860.00 | 6,500 | 493,090,000 | |
| 6 | River Shingle Aggregates | Sub | 3,500.00 | 80,000 | 280,000,000 | |
| 7 | Juangle Wood ( Assorted Size )2-time | Ton | 600.00 | 550,000 | 330,000,000 | |
| 8 | Ply-wood ( 5 ) Ply ( 2-Times ) | Sheet | 5,000.00 | 12,000 | 60,000,000 | |
| 9 | Iron Wire Nails | Viss | 5,000.00 | 1,850 | 9,250,000 | |
| 10 | Bolts and Nuts | Ton | 0.50 | 750,000 | 375,000 | |
| 11 | Rebar ( Assorted Size ) | M.Ton | 2,500.00 | 730,000 | 1,825,000,000 | |
| 12 | Binding Wire | Cwt | 500.00 | 60,000 | 30,000,000 | |
| 13 | H.S.D | Gal | 7,200.00 | 4,500 | 32,400,000 | |
| 14 | Electrode | Pkg | 1,500.00 | 2,800 | 4,200,000 | |
| 15 | Oxygen | Cyld | 800.00 | 2,300 | 1,840,000 | |
| 16 | Accetyleane | Cyld | 200.00 | 15,000 | 3,000,000 | |
| 17 | Streel Member for Decking | M.Ton | 4.00 | 800,000 | 3,200,000 | |
| 18 | Glass | Sft | 8,000.00 | 800 | 6,400,000 | |
| 19 | ( 3" ) G.I Pipe ( 20 ft- Length ) | Nos. | 61.00 | 60,000 | 3,660,000 | |
| 20 | Miscellanceous | L.S | Item | 5,000,000 | 5,000,000 | |
| | | | | | | |
| | **Total Cost of Local Materials** | | | | 3,119,335,000 | |

**Khaing Oo Company Limited** နောက်ဆက်တွဲ (ဂ) အဆက်

Materials Requirement and Foreign Currency ( US$ ) Requirement (Import Materials) **List ( 2 )**

Based On Quay-Apron - 190 m x 30 m , Trestle - ( 110m x 20 m )

**( A ) Materials Costs ( To Be Imported Items )**

| Sr. No. | Particulars | Qty. | Rate (US$) | A/U | Amount ( US$ ) |
|---|---|---|---|---|---|
| A | **Foundation Work** | | | | |
| 1 | 1000 ∅ PSC Pile | 5,248 | 250 | | 1,312,000.00 |
| 2 | 900 ∅ PSC Pile | 3,700 | 230 | | 851,000.00 |
| 3 | 700 ∅ PSC Pile | 3,432 | 150 | | 514,800.00 |
| 4 | 600 ∅ PSC Pile | 3,472 | 120 | | 416,640.00 |
| | | | | | **3,094,440.00** |
| B | **Deck Fitting Work** | | | | |
| 1 | 600 Hx 3500 L Rubber Fender ( V ) | 30 | 6,150 | | 184,500.00 |
| 2 | 300 Hx 2500 L Rubber Fender ( H ) | 28 | 2,500 | | 70,000.00 |
| 3 | 100 Ton Bollard | 10 | 1,750 | | 17,500.00 |
| 4 | 75 Ton Bollard | 5 | 1,350 | | 6,750.00 |
| 5 | Bolts for Vertical Rubbers | 300 | 50 | | 15,000.00 |
| 6 | Bolts for Horizontal Rubbers | 280 | 35 | | 9,800.00 |
| | | | | | **303,550.00** |
| C | **High Mast Lighting** | | | | |
| 1 | 30 m High Mast Complete Set | 5 | 25,000 | | **125,000.00** |
| D | **QGC & Portal Crane Rail Installation** | | | | |
| 1 | QU 100 rail & associated fitting & | | | | |
| | accessories for Quayside Gantry Container | | | | |
| | Crane and Multipurpose Portal Crane and | | | | |
| | Prefabricated Anchorage Pit, Tie-Down Pit, | | | | |
| | Crane Stop, Cable Trench High Voltage Pit, | | | | |
| | etc.. Including Labour Cost | Item | Item | Item | 672,880.00 |
| | **Total Progressive Materials Costs** | | | | **4,195,870.00** |

**( B ) Labour Costs**

| Sr. No. | Particulars | Qty. | Rate (US$) | A/U | Amount ( US$ ) |
|---|---|---|---|---|---|
| A | **Foundation Work** | | | | |
| 1 | **Handling,Pitching,Setting & Driving RC piles to required peretration. Pile Driving & Associated Work for Quay Apron** | | | | |
| | 1000 mm ∅ | 4,820 | 210 | | 1,012,200.00 |
| | 900 mm ∅ | 3,440 | 185 | | 636,400.00 |
| | 700 mm Ø | 3,160 | 142 | | 448,720.00 |
| | | | | | **2,097,320.00** |
| 2 | **Mobilization,Demobilization,Site Mgt, etc..** | | | | |
| | For Quay Apron 1000,900,700 ϕ mm | Item | Item | Item | 1,100,000.00 |
| | **Total Progressive Labour Costs** | | | | **3,197,320.00** |
| | **Total Materials and Labour Costs** | | | | **7,393,190.00** |

ဝင်းမော်ထွန်း
ဒါရိုက်တာ

နောက်ဆက်တွဲ (ဂ) အဆက်

Construction of RC Piled Access Pier

Thilawa Foreshore at Plot 23, Yangon

Bill of Quantities of Local Materials and Costs

Based On Access Pier

**List ( 3 )**

| Sr.No. | Particulars | Unit | Qty, | Rate | Amount ( Ks. ) | Remarks |
|---|---|---|---|---|---|---|
| 1 | Concrete G-40 N | | 180.50 | - | - | |
| 2 | Concrete G-40 N | | 877.50 | - | - | |
| 3 | Cement Concrete G-25 N ( 3625-psi ) | | 58.50 | - | - | |
| 4 | River Sand | Sub | 175.00 | 12,000 | 2,100,000.00 | |
| 5 | Cement ( Storage ) | Bag | 7,000.00 | 6,500 | 45,500,000.00 | |
| 6 | River Shingle Aggregates | Sub | 338.00 | 80,000 | 27,040,000.00 | |
| 7 | Juangle Wood ( Assorted Size )2-time | Ton | 88.00 | 550,000 | 48,400,000.00 | |
| 8 | Ply-wood ( 5 ) Ply ( 2-Times ) | Sheet | 735.00 | 12,000 | 8,820,000.00 | |
| 9 | Iron Wire Nails | Viss | 786.00 | 1,850 | 1,454,100.00 | |
| 10 | Bolts and Nuts | Ton | 0.25 | 750,000 | 187,500.00 | |
| 11 | Rebar ( Assorted Size ) | M.Ton | 200.00 | 730,000 | 146,000,000.00 | |
| 12 | Binding Wire | Cwt | 37.00 | 60,000 | 2,220,000.00 | |
| 13 | H.S.D | Gal | 500.00 | 4,500 | 2,250,000.00 | |
| 14 | Electrode | Pkg | 120.00 | 2,800 | 336,000.00 | |
| 15 | Oxygen | Cyld | 69.00 | 2,300 | 158,700.00 | |
| 16 | Accetyleane | Cyld | 20.00 | 15,000 | 300,000.00 | |
| 17 | Streel Member for Decking | M.Ton | 1.00 | 800,000 | 800,000.00 | |
| 18 | Glass | Sft | 2,000.00 | 800 | 1,600,000.00 | |
| 19 | ( 3" ) G.I Pipe ( 20 ft- Length ) | Nos. | 37.00 | 60,000 | 2,220,000.00 | |
| 20 | Miscellaneous | L.S | Item | 2,000,000 | 2,000,000.00 | |
| | | | | | | |
| | | | | | 291,386,300.00 | |

နောက်ဆက်တွဲ (၁) အဆက်

Sheet ( 1 )

Construction of R.C Fixed Jetty

Thilawa Foreshore at Plot 23, Yangon

PROJECT ESTIMATED CONSTRUCTION COST FOR R.C JETTY

R.C Jetty, Quay Apron with one trestle and one access pier

| SUMMARY OF TOTAL PROJECT COSTS | ( Kyat ) | |
|---|---|---|
| Jetty with one trestle- 190 m x 30 m Quay Apron and Trestle 110 m x 20 m | 15,415,711,413.00 | Sheet -1 ( Botton ) |
| R.C Piled Access Pier- 51 m x 20 m wide | 459,030,228.00 | Sheet -2 |
| Total Project Costs in Local Currency | 15,874,741,641.00 | |

**Foreign Currency US$ 7,393,190-00 ( Converted into Local Currency at rate : Ks. 1200= 1-US$ is , equivalent to Ks. 8,871,828,000-00 ) is included in Total Costs.**

**Summary of Total Cost for Jetty ( Based on Quay Apron - 190 m x 30 m, Trestle ( 110 mx 20 m )**

| | | |
|---|---|---|
| Local Currency & Foreign Currency in equivalent Local Kyat | 13,188,028,300.00 | Sheet -3 |
| Customs Duties, Port Clearance Costs for Import Items | 700,000,000.00 | |
| Total Cost | 13,888,028,300.00 | |
| Contingencies Cost | 416,640,849.00 | |
| Transport Charges | 694,401,415.00 | |
| Supervision & Overhead Charges | 416,640,849.00 | |
| Total Jetty Cost | 15,415,711,413.00 | |

**This cost included cost of installation of Rail & Associated Cost ( Materilas & Labour ).**

**Foreign Currency US$ 7,393,190-00 ( Converted into Local Currency at rate : Ks. 1200= 1-US$ is , equivalent to Ks. 8,871,828,000-00 ) is included in Total Costs.**

နောက်ဆက်တွဲ (ဂ) အဆက်

**Sheet ( 2 )**

Construction of R.C Fixed Access Pier -51M

Thilawa Foreshore at Plot 23, Yangon

PROJECT ESTIMATED CONSTRUCTION COST FOR R.C FIXED ACCESS PIER

Summary Of Construction Cost

Based on Access Pier ( 51 m x 20 m )

**Summary of Total Cost**

| | |
|---|---|
| Materials Cost | 291,386,300.00 |
| Labour Cost | 91,138,890.00 |
| Total Cost | 382,525,190.00 |
| 5% Contingencies Cost | 19,126,259.50 |
| 10 % Transport Charges | 38,252,519.00 |
| 5 % Supervision & Overhead Charges | 19,126,259.50 |
| Total Fixed Acess Pier Cost | 459,030,228.00 |

နောက်ဆက်တွဲ (၁) အဆက်

Sheet ( 3 )

Construction Cost Statement of RC Fixed Jetty

Thilawa Foreshore at Plot 23, Yangon

Summary of Total Cost

| | | |
|---|---|---|
| Materials Costs | | 3,119,335,000 |
| Add : Labour Costs | | |
| Foudation Work ( Labour Only ) | 95,472,000 | |
| Precast Member | 194,664,000 | |
| R.C Work ( Cast-in-situ ) | 344,132,000 | |
| Deck Fittings | 6,547,000 | |
| Fender System | 337,900 | |
| Bollard Syaytem | 255,000 | |
| High Mast Lighting | 6,800,000 | |
| Additional Supporting Work | 38,457,400 | |
| Water Supply System | 10,200,000 | 696,865,300 |
| Add: Preliminary Engineering Associated Works Costs | | 500,000,000 |
| Total Costs of Fixed Jetty with Loacl Currency | | 4,316,200,300 |
| Add : Foreign Currency for Import in equivalent Local at Ks. 1,200 per US$ ( Ttl: 7,393,190/-) | | 8,871,828,000 |
| **Total Costs in Local Currency** | | **13,188,028,300** |

Foreign Currencies (USD) Requirement :

| | | | | |
|---|---|---|---|---|
| Foundation Work - Pile | = | USD | 3,661,496 | List (2) Top |
| - Piling | = | USD | 4,609,980 | List (2) Bottom |
| **Piles & Piling Cost** | = | **USD** | **8,271,476** | |
| Decking Fittings | = | USD | 389,650 | List (2) Middle |
| High Mast Lighting | = | USD | 157,500 | List (2) Middle |
| QGC & Portal Crane Rail Installation | = | USD | 872,880 | List (2) Middle |
| **Total Foreign Currencies reqd.** | = | **USD** | **9,691,506** | |

Khaing Oo Co., Ltd., Thilawa Plot (23)

International Commercial Business Port Terminal တည်ဆောက်ထူထောင်ရန်စီမံကိန်း

လုပ်ငန်းအကောင်အထည်ဖော်မှုကာလစီမံချက်

| | စီမံကိန်းလုပ်ငန်းရပ်များအကောင်အထည်ဖော်ရန် | ပထမနှစ် | | ဒုတိယနှစ် | | တတိယနှစ် | | စတုတ္ထနှစ် | | ပဥ္စမနှစ် | | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | |
| | | | | | | | | | | | | |
| | **စီမံကိန်းပထမအဆင့်** | | | | | | | | | | | |
| ၁။ | ရေပိုင်းလုပ်ငန်းများကဏ္ဍ-လုပ်ငန်းများ | | | ၂နှစ် ၆လ | | | | | | | | စီမံကိန်းတစ်ခုလုံး |
| | (က) ဆိပ်ခံတံတားတည်ဆောက်ခြင်း | | | | | | | | | | | အကောင်အထည် |
| | (ခ) ကမ်းပါးတာရိုးတံတိုင်းတည်ဆောက်ခြင်း | | | | ၁နှစ် | | | | | | | ဖော်ရန်ကာလ |
| ၂။ | ကုန်းပိုင်းလုပ်ငန်းများကဏ္ဍ-လုပ်ငန်းများ | | | | | | | | | | | စုစုပေါင်း ၅နှစ် |
| | (က) ဆိပ်ကမ်းဝင်းထရံကာရံခြင်း၊ အတွင်းလမ်းနှင့် ရေမြောင်းများ | | ၁နှစ် ၆လ | | | | | | | | | |
| | ဖေါက်လုပ်ခြင်း (သဲဖို့ခြင်းအပါအဝင်) | | | | | | | | | | | |
| | (ခ) မော်တော်ယာဉ်၊ ကုန်သယ်ယာဉ်များ ရပ်နားရန်လွင်ပြင်အခင်းနှင့် | | | | | | | | | | | |
| | ကုန်ကိုင်တွယ်စက်ကိရိယာလွင်ပြင်နှင့် ပြုပြင်ထိန်းသိမ်းရေးရုံ | | | | ၁နှစ် ၆လ | | | | | | | |
| | ဆောက်လုပ်ခြင်း | | | | | | | | | | | |
| | (ဂ) အုပ်ချုပ်ကွပ်ကဲမှုရုံးနှင့်ဆိပ်ကမ်းလုပ်ငန်းအထောက်အကူပြု | | | ၁နှစ် ၆လ | | | | | | | | |
| | အဆောက်အဦများနှင့် အဆောက်အအုံများ ဆောက်လုပ်ခြင်း | | | | | | | | | | | |
| | (ဃ) အထွေထွေကုန်စည်သိုလှောင်ရုံကြီးများဆောက်လုပ်ခြင်းနှင့် | | | ၂နှစ် | | | | | | | | |
| | အထွေထွေကုန်စည်လွင်ပြင်အခင်းဆောက်လုပ်ခြင်း | | | | | | | | | | | |
| ၃။ | စက်ပစ္စည်းကိရိယာများ၊ ကုန်ကိုင်တွယ်ကိရိယာနှင့် | | | | ၂နှစ် | | | | | | | |
| | ကုန်သယ်ယာဉ်များဝယ်ယူတပ်ဆင်ခြင်း | | | | | | | | | | | |
| | **စီမံကိန်းဒုတိယအဆင့်** | | | | | | | | | | | |
| | ကုန်းပိုင်းလုပ်ငန်းကဏ္ဍ-လုပ်ငန်းများ | | | | | | | | | | | |
| ၁။ | အရေးပေါ်မီးငြိမ်းသတ်ရန်ရေကန်ဖေါက်လုပ်ခြင်း၊ ရေစက်ရုံ | | | | ၁နှစ် | | | | | | | |
| | ဆောက်လုပ်ခြင်း | | | | | | | | | | | |

| | စီမံကိန်းလုပ်ငန်းရပ်များအကောင်အထည်ဖေါ်ရန် | ပထမနှစ် | | ဒုတိယနှစ် | | တတိယနှ | | စတုတ္ထနှစ် | | ပဥ္စမနှစ် | | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | ၆လ | |
| | | | | | | | | | | | | |
| ၂။ | ကုန်သေတ္တာလွင်ပြင်နှင့် ကုန်သေတ္တာဓွေးထုတ်ရေးရုံဆောက်လုပ်ခြင်း | | | | | | ၂နှစ် | | | | | |
| ၃။ | ဘိလပ်မြေဆိုင်လိုများနှင့်ထုတ်ပိုးအလုပ်ရုံဆောက်လုပ်ခြင်း (ဆိပ်ခံ | | | | | | | | | | | |
| | တံတားနှင့်ဘိလပ်မြေဆိုင်လိုများအကြား ပို့ဆောင်ရေးပိုက်လိုင်းများ | | | | | ၁နှစ် ၆လ | | | | | | |
| | အပါအဝင်) | | | | | | | | | | | |
| ၄။ | စက်မှုဇုံထုတ်ပစ္စည်းများနှင့် သစ်သား၊သစ်သားထည်များထားသို | | | | | | | | ၂နှစ် | | | |
| | ကိုင်တွယ်ရေးလုပငန်းကွက်များ (သိုလှောင်ရုံကြီးများအပါအဝင်) | | | | | | | | | | | |
| ၅။ | စက်ပစ္စည်းကိရိယာများ၊ ကုန်ကိုင်တွယ်စက်ကိရိယာများ၊ ကုန်သယ် | | | | | | | | ၁နှစ် ၆လ | | | |
| | ယာဉ်များကို ဖြည့်တင်းအသုံးပြုခြင်း | | | | | | | | | | | |
| | **<u>စီမံကိန်းတတိယအဆင့်</u>** | | | | | | | | | | | |
| ၁။ | အနာဂါတ်ကာလကုန်သေတ္တာစခန်းတိုးချဲ့ခြင်းနှင့် အနာဂါတ်ကာလ | ဒုတိယအဆင့်နောက်ပိုင်းရေကြောင်းကုန်သွယ်မှုတိုးတက်ကြီးထွားလာမှုအခြေအနေအရ ဆက်လက် | | | | | | | | | | |
| | ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းတိုးချဲ့ခြင်း | အကောင်အထည်ဖေါ် သွားပါမည်။ | | | | | | | | | | |
| | | | | | | | | | | | | |

ပူးတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



# MASTER PLAN

ပူးတွဲပုံစံ−၁




| | | | | | | |
|---|---|---|---|---|---|---|
| | Title : KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL | Design by | Approval | File | Dwg. No. | sht |
| | Master Plan | C.E | C.E 15.03.16 | C D E | KOCL | 1/1 |

DEVELOPMENT OF KHAING OO CO.,LTD INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL AT THILAWA PLOT (PLOT23)
OVERALL MASTER LAYOUT PLAN (TENTATIVE)



ပူးတွဲပုံစံ-၃(က)




# YANGON RIVER

# THILAWA

## SOUNDINGS BETWEEN THILAWA PLOT Nº 14 TO 33

SURVEYED IN APRIL & MAY 2010, BY SURVEY DIVISION OF MPA

SCALE 1: 2400

UNITE IN METRES

ပူးတွဲပုံစံ-၃(၁)

YANGON RIVER

# THILAWA PLOT Nº 23

SCALE 1:1500

UNITS IN METRES

SURVEYED DATE (NOT MENTIONED)



ပူးတွဲပုံ-၄

## DEVELOPMENT OF KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL

## AT THILAWA PLOT (23)

## PROPOSED R.C FIXED JETTY CONSTRUCTION

## SITE PLAN (CONCEPTUAL)




| Title: KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL R.C Fixed Jetty - Site Plan (Conceptual) | Design by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| | C.E | C.E 03.03.16 | C D E | KOCL | 1/1 |

ပူးတွဲပုံ-၅

# DEVELOPMENT OF KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL

## THILAWA PLOT (23)

## PROPOSED R.C FIXED JETTY CONSTRUCTION

## DECK PLAN (CONCEPTUAL)

1. **Fender System (Quay Apron Frontage for sea-going vessels)**
   - Vertical Fender - Rubber Fender 600 H×3500 L - Modified V-shape Type or Equivalent. - 30 Units
   - Horizontal Fender - Rubber Fender 300 H×2500 L - Modified V-shape Type or Equivalent. - 28 Units

2. **Bollard System**
   - Cast Steel 50-75 Ton Tee-head or equivalent for Ship Mooring. - 5 Units
   - Cast Steel 100 Ton Tee-head or equivalent for Ship Mooring & Emergency during Storm Period. - 10 Units
   - High Mast Lighting, 20 - 25 m high - 5 Units

3. **Construction Joint / Expansion Joint**
   Construction Joint will be provided as required at Quay Apron. Quay Apron & Trestle and Trestle & Access Pier will have Construction -cum- Expansion Joints at Junction.




ပူးတွဲပုံ-၅

| Title | Design by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL<br>R.C Fixed Jetty - Deck Plan (Conceptual) | C.E | C.E 11.03.16 | C D E | KOCL | 1/1 |

**DEVELOPMENT OF KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL**

**AT THILAWA PLOT (23)**

**CONSTRUCTION OF R.C FIXED JETTY**

**CONCEPTUAL FRONT ELEVATION SHOWING R.C SUPERSTRUCTURE AND FOUNDATION PILES**




REFER : DECK PLAN.

Note :

Fender System (Quay Apron Frontage for sea-going vessels)

Vertical Fender - Rubber Fender 600 H×3500 L - Modified V-shape Type or Equivalent.

Horizontal Fender - Rubber Fender 300 H×2500 L - Modified V-shape Type or Equivalent.

Construction Joint will be provided as required at Quay Apron and Trestle.

Bollard System

Cast Steel 50-75 Ton Tee-head or equivalent for Ship Mooring.

Cast Steel 100 Ton Tee-head or equivalent for Ship Mooring & Emergency during Storm Period.

| Title : KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL<br>R.C Fixed Jetty - Front Elevation | Design by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| | C.E | C.E 07.03.16 | C D E | KOCL | 1/1 |

ပူးတွဲပုံ-၇

**DEVELOPMENT OF KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL**

**AT THILAWA PLOT (23)**

**PROPOSED R.C FIXED JETTY CONSTRUCTION**

**CONCEPTUAL SIDE ELEVATION SHOWING R.C SUPERSTRUCTURE AND FOUNDATION PILES**




Side Elevation of R.C Fixed Jetty (Conceptual for Quay Apron, Trestle and Access Pier)

Refer Drawing of Piling Plan for Pile Dimensions.

Notes as regards Preliminary Engineering Design

1. Foundation Pile lengths would be finalised on receipt of Sub-surface Soil Investigation Results.
2. Dimensions of R.C components of Superstructure of Jetty are Pre-engineering Design dimensions to indicate extent of Works involved in construction.
3. Positions of Rail Track for Quay STS (Ship-to-Shore) Gantry Crane & Portal Crane are indicative for Future Demand.

Note :

R.C Fixed Jetty would be designed and constructed to enable accomodating Vessels DWT 20000, Loaded Draft 9.0 m, allowed for Thilawa Port area by MPA at present, and also to enable berthing of larger vessels which would be allowed by MPA in future as Long Term.

| Title : KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL | Design by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| R.C Fixed Jetty - Side Elevation (Conceptual) | C.E | C.E 07.03.16 | C D E | KOCL | 1/1 |

## DEVELOPMENT OF KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL

## AT THILAWA PLOT (23)

## PROPOSED R.C FIXED JETTY CONSTRUCTION

## PILING PLAN (CONCEPTUAL)




**Access Pier Piling - Local R.C Square Piles**

| | | |
|---|---|---|
| Rows 37 to 41 | 14"x14"x60' = | 35 lengths |
| Rows 42 to 46 | 14"x14"x55' = | 35 lengths |
| Rows 47 to 48 | 14"x14"x50' = | 14 lengths |
| | | 84 lengths |

**Trestle Piling - Std. PSC Piles (Foreign)**

| | | |
|---|---|---|
| Rows 11 to 18 | 600 mm Ø x 34 m = | 32 lengths |
| Rows 19 to 23 | 600 mm Ø x 32 m = | 20 lengths |
| Rows 24 to 28 | 600 mm Ø x 30 m = | 20 lengths |
| Rows 29 to 36 | 600 mm Ø x 28 m = | 32 lengths |
| | | 104 lengths |

**Reserved Extra Requirement of PSC Piles**

| | |
|---|---|
| 600 mm Ø x 34 m | = 2 lengths |
| 600 mm Ø x 32 m | = 2 lengths |
| 600 mm Ø x 30 m | = 2 lengths |
| 600 mm Ø x 28 m | = 2 lengths |
| | 8 lengths |
| Total | = 112 lengths |

**Quay Apron Piling - Std. PSC Piles (Foreign)**

| | | | |
|---|---|---|---|
| Rows 1 & 2 | Vertical | 1000 mm Ø x 42 m | = 60 lengths |
| Row 3 | Vertical | 900 mm Ø x 42 m | = 30 lengths |
| Rows 4 & 5 | Inclined | 1000 mm Ø x 40 m | = 60 lengths |
| Rows 6 & 7 | Vertical | 900 mm Ø x 38 m | = 60 lengths |
| Rows 8 & 9 | Vertical | 700 mm Ø x 38 m | = 60 lengths |
| Row 10 | Vertical | 700 mm Ø x 36 m | = 30 lengths |
| | | | 300 lengths |

**Reserved Extra Requirement of PSC Piles**

| | | |
|---|---|---|
| Vertical | 1000 mm Ø x 42 m | = 4 lengths |
| Vertical | 900 mm Ø x 42 m | = 2 lengths |
| Inclined | 1000 mm Ø x 40 m | = 4 lengths |
| Vertical | 900 mm Ø x 38 m | = 2 lengths |
| Vertical | 700 mm Ø x 36 m | = 2 lengths |
| | | 14 lengths |
| Total | | = 314 lengths |

Note:

- Berth for General Cargo Vessel of DWT 20000, LOA 175 M, Full Load Draft 9.0 M, and Container Ship DWT 15000, LOA 180 M, Full Load Draft 9.0 M, and for General Cargo Vessel of DWT 25000 - 30000, LOA 186 M, Full Load Draft 11.3 M in Future (Provisional).
- Dimension of Piles are based on similar site & soil conditions of Jetty in its vicinity and it is ensured. Their lengths are ample for actual detail design which would be verified & revised after subsurface Soil investigation.

| Title | Design by | Approva | File | Dwg. No. | sht |
|---|---|---|---|---|---|
| KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL R.C Fixed Jetty - Piling Plan (Conceptual) | C.E | C.E 11.03.16 | C D E | KOCL | 1/1 |

## DEVELOPMENT OF KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL

## AT THILAWA PLOT (23)

### FORESHORE BANK PROTECTION

### CONCEPT OF R.C FRAMED STRUCTURE DESIGN




| Title | Desigr. by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| KHAING OO CO.,LTD. INTERNATIONAL COMMERCIAL BUSINESS PORT TERMINAL<br>Creek Foreshore Protection | C.E | C.E 15.3.2016 | CDE | KOCL | 1/1 |

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

ခိုင်ဦးကုမ္ပဏီလီမိတက်

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်း မြေကွက်အမှတ် (၂၃) တွင်

ခေတ်မီအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့်

ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများကို

တည်ဆောက်၍ BOT စနစ်ဖြင့်

ဆိပ်ကမ်းလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်အတွက်

ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်(မူကြမ်း)

နှင့်

မြေငှားစာချုပ် (မူကြမ်း)

၂၀၁၆ ခုနှစ်၊ -------- လ (      ) ရက်

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

ခိုင်ဦးကုမ္ပဏီလီမိတက်

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်း မြေကွက်အမှတ် (၂၃) တွင်

ခေတ်မီအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့်

ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများကို

တည်ဆောက်၍ BOT စနစ်ဖြင့်

ဆိပ်ကမ်းလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်အတွက်

ချုပ်ဆိုသည့်

ပဋိညာဉ်စာချုပ်(မူကြမ်း)

## ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းမြေကွက်အမှတ် (၂၃) တွင် ခေတ်မီအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတားနှင့် ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများကို တည်ဆောက်၍ BOT စနစ်ဖြင့် ဆိပ်ကမ်းလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ခိုင်ဦးကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုသည့်

## ပဋိညာဉ်စာချုပ်(မူကြမ်း)

ဤပဋိညာဉ်စာချုပ်ကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင် ၂၀၁၆ ခုနှစ်၊ မတ်လ၊ (     ) ရက်နေ့၌

**ဦးကျော်မြင့်**၊ **အမှုဆောင်အရာရှိချုပ်**၊ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဉ်းများအရဖွဲ့စည်းထားသော ပို့ဆောင်ရေးဝန်ကြီးဌာနလက်အောက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး၊ ၎င်း၏ ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က တစ်ဖက်

နှင့်

**ဒေါ်ဝင်းမော်ထွန်း**၊ မန်နေဂျင်းဒါရိုက်တာ ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၈/ရနခ (နိုင်) ၀၁၁၀၆၇ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေများနှင့် စည်းမျဉ်းများအရ ဖွဲ့စည်းထားသော ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ အမှတ် (၆) ရပ်ကွက်၊ဇေယျာခေမာလမ်း၊ အမှတ် (၃၄၈) တွင်တည်ရှိသည့် ခိုင်ဦးကုမ္ပဏီလီမိတက် (ဤမှနောင်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက် သဘောတူ ဤပဋိညာဉ်စာချုပ်ကို ချုပ်ဆိုကြပါသည်။

နောင်တွင် တစ်ဖက်ဖက်စီကို "စာချုပ်ဝင်" ဟူ၍လည်းကောင်း၊ နှစ်ဦးနှစ်ဖက်စလုံးကို "စာချုပ်ဝင်များ" ဟူ၍ လည်းကောင်း မှတ်ယူရမည်။

**နိဒါန်း**

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းနယ်မြေရှိ ဤသဘောတူစာချုပ်၏ ပူးတွဲ (၁) တွင် မြေနှင့်သက်ဆိုင်သော အချက်အလက်များကိုအတိအကျဖော်ပြထားသည့် ဧရိယာ ၃၇.၀၆ ဧကအကျယ်အဝန်းရှိ မြေကွက်အမှတ်

(၂၃) (နောင်တွင် "ငှားရမ်းမည့်မြေ" ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြုအာမခံ သဖြင့်လည်းကောင်း၊

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က မိမိပိုင်မြေကို "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" သို့ ငှားရမ်းလိုကြောင်းနှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က လည်း "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံမှ မြေကို ခေတ်မီအပြည်ပြည်ဆိုင်ရာဆိပ်ခံတံတား (နောင်တွင် "ဆိပ်ခံတံတား" ဟု ရည်ညွှန်းခေါ်ဆိုမည်) တည်ဆောက်နိုင်ရန်အတွက် ဤပဋိညာဉ်စာချုပ်တွင်ပါရှိသည့် အောက်ဖော်ပြပါ စည်းမျဉ်းစည်းကမ်းချက်များပါ ငှားရမ်းကာလအတိုင်း ငှားရမ်းအသုံးပြုလိုပါသည်။ ထို့အပြင် အဆိုပါငှားရမ်းမြေပေါ်တွင် ဆိပ်ခံတံတားအပါအဝင် ဆိပ်ကမ်းအထောက်အကူပြုအဆောက်အအုံများ (နောင်တွင် Khaing Oo Port Terminals ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို ကောင်အထည်ဖော်တည်ဆောက်၍ တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း (Build, Operate and Transfer-BOT) စနစ်ဖြင့် ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရန်ချုပ်ဆိုသည့်ပဋိညာဉ်စာချုပ် (ဤမှစ၍နောင်တွင် "ဤစာချုပ်" ဟုခေါ်ဆိုပါမည်) ပါ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ငှားရမ်းအသုံးပြုရန် ဆန္ဒရှိပါသဖြင့်လည်းကောင်း၊

(ဂ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်က ၂၀၁၂ ခုနှစ်တွင် ပြဋ္ဌာန်းထားသော မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ သတ်မှတ်ချက်နှင့်အညီ ဤသဘောတူစာချုပ် အပိုဒ်-၁၃ တွင်ဖော်ပြထားသည့်အတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်းနှင့် မြေငှားကာလသက်တမ်းကို ဤပဋိညာဉ်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ နှစ်ပေါင်း (၅၀)နှစ်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့်နောက်ထပ် သက်တမ်းတိုးမြှင့်ခွင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ်တိုးမြှင့်ခွင့်ပြုနိုင်ရန် သဘောတူညီသဖြင့်လည်းကောင်း၊

ဤပေါင်းစည်းပဋိညာဉ်စာချုပ်ကို နှစ်ဦးနှစ်ဖက်အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

## ၁။ အဓိပ္ပါယ်ဖော်ပြချက်

ဤပဋိညာဉ်စာချုပ်တွင်ပါရှိသော အောက်ဖော်ပြပါ စကားရပ်များသည် ဖော်ပြပါအတိုင်း အဓိပ္ပါယ်သက်ရောက်စေရမည်-

(က) မြေငှားရမ်းခနှုန်းထားများဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အပိုဒ်-၅ တွင် ဖော်ပြထားသော မြေအသုံးချမှုပရီမီယံနှင့် အပိုဒ်-၆ တွင် ဖော်ပြထားသော မြေငှားခများကိုဆိုသည်။

(ခ) ဆိပ်ကမ်းသုံးစွဲခနှုန်းထားများဆိုသည်မှာဤပဋိညာဉ်စာချုပ်အပိုဒ်-၈(ဆ) တွင် ဖော်ပြထားသော နှုန်းထားများကိုဆိုသည်။

(ဂ) စုစုပေါင်းဝင်ငွေ၏ အဓိပ္ပါယ်ဖော်ပြချက်ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် ပူးတွဲ(၂) ၌ ရှင်းလင်း သတ်မှတ်ဖော်ပြထားသော ဖော်ပြချက်ကိုဆိုသည်။

## ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

နှစ်ဖက်စာချုပ်ပင်အသီးသီးတို့သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၄င်းတွင် ဤပဋိညာဉ် စာချုပ်ကိုချုပ်ဆိုနိုင်ရန်အလို့ငှာ၊ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူ များဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

## ၃။ ဆောင်ရွက်ရမည့်လုပ်ငန်းပုံစံ

"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" တို့အကြား ဆောင်ရွက်ရမည့် လုပ်ငန်း ပုံစံမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" သည် ငှားရမ်းမြေအား "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံသို့ ငှားရမ်းရန် နှစ်ဦးနှစ်ဖက်သဘောတူညီသည့် စည်းကမ်းချက်များပါရှိသော "မြေငှားစာချုပ်" ကို ချုပ်ဆိုရမည်။

(ခ) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" နှင့် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" တို့အကြား ပူးတွဲ (၁) မြေပုံပါ စုစုပေါင် မြေဧရိယာ ၃၇.၀၆ ဧက အကျယ်အဝန်းရှိမြေနေရာတွင် ပူးတွဲ (၃) တွင် ဖော်ပြ ထားသည့်အတိုင်း ခေတ်မီအပြည့်ပြည့်ဆိုင်ရာဆိပ်ခံတံတား၊ ကုန်သိုလှောင်ရုံများ၊ ဆိပ်ကမ်း လွင်ပြင်နှင့် ဆိပ်ကမ်းအထောက်အကူပြု အဆောက်အအုံများပါဝင်သော Khaing Oo Port Terminals ကို ပူးတွဲ (၄) ပါ ရင်းနှီးမြှုပ်နှံမှု ငွေပမာဏဖြင့် စံချိန်စံညွှန်းပြည့်မီစွာ အကောင် အထည်ဖော်တည်ဆောက်၍ ၄င်းနှင့် သက်ဆိုင်သည့် လုပ်ငန်းများကိုဆောင်ရွက်ခြင်း၊ စီမံခန့်ခွဲ ခြင်းပြုလုပ်ရမည်။

## ၄။ ကြိုတင်စည်းကမ်းချက်များ

ဤပဋိညာဉ်စာချုပ်ကို ဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန် အလို့ငှာ၊ စာချုပ်ချုပ်ဆိုသူနှစ်ဦး တို့သည် အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) ဤစာချုပ်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်အတွက် သက်ဆိုင်ရာအစိုးရအာဏာပိုင် များထံမှ ထောက်ခံအတည်ပြုချက်များ ပြည့်စုံစွာရရှိရန် လိုအပ်ပါသည်။

(ခ) Khaing Oo Port Terminals နှင့်သက်ဆိုင်သောကိစ္စအဝဝအတွက် ကုန်ကျစရိတ်အားလုံးကို ကျခံ၍ ဆောက်လုပ်အကောင်အထည်ဖော်ရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" က ခွင့်ပြုရမည်။

## ၅။ ပေးချေရမည့် မြေအသုံးချမှု ပရီမီယံကြေးနှုန်းထား

Khaing Oo Port Terminals အတွက် ငှားရမ်းသည့်မြေနှင့်ပတ်သက်၍ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" က "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံ မြေတစ်ဧကလျှင်ငွေကျပ် ၁၅,၀၀၀,၀၀၀ (ကျပ် တစ်ဆယ့်ငါးသန်း) နှုန်းဖြင့် စုစုပေါင်း ၃၇.၀၆ ဧကအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ငွေကျပ် ၅၅၅,၉၀၀,၀၀၀ (ကျပ် ငါးရာငါးဆယ်ငါးသန်းကိုးသိန်း တိတိ) ကို အောက်ပါအတိုင်း အရစ်(၂)ရစ်ခွဲ၍ ပေးချေရမည်-

(က) ပထမအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ငွေကျပ် ၂၇၇,၉၅၀,၀၀၀ (ကျပ်နှစ်ရာခုနှစ်ဆယ်ခုနှစ်သန်းကိုးသိန်းငါးသောင်း တိတိ) ကို ဤစာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၃၀) အတွင်းပေးချေရမည်။

(ခ) ဒုတိယအရစ်အဖြစ် မြေအသုံးချမှုပရီမီယံကြေး၏ ၅၀% ဖြစ်သော ငွေကျပ် ၂၇၇,၉၅၀,၀၀၀ (ကျပ် နှစ်ရာခုနှစ်ဆယ်ခုနှစ်သန်းကိုးသိန်းငါးသောင်း တိတိ) ကို ဤစာချုပ် လက်မှတ်ရေးထိုးပြီး တစ်နှစ်အတွင်းပေးချေရမည်။

(ဂ) အထက်ပါ သတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေး ပေးဆောင်ရန် ပျက်ကွက်ပါက ဤစာချုပ်၏ အပိုဒ် ၁၇ (ခ) အရ စာချုပ်ကို ရပ်စဲနိုင်သည်။

## ၆။ ပေးချေရမည့် မြေငှားရမ်းခနှုန်းထား

Khaing Oo Port Terminals အတွက် ငှားရမ်းသည့်မြေနှင့်ပတ်သက်၍ ဆိပ်ကမ်းလုပ်ငန်းစတင်ဆောင်ရွက်သည့်နှစ်မှစ၍ ပဋိညာဉ်စာချုပ် ပူးတွဲ (၂) တွင်ဖော်ပြထားသည့်အတိုင်း စုစုပေါင်းဝင်ငွေကို တွက်ချက်ပြီး အောက်ဖော်ပြပါရာခိုင်နှုန်းထားများနှင့်အညီ နှစ်သက်တမ်းအလိုက်တွက်ချက်ရရှိသော နှစ်စဉ်မြေငှားရမ်းခကို "လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ" က "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ထံပေးချေရမည်-

| လုပ်ငန်းဆောင်ရွက်သောနှစ် | ငှားရမ်းခငွေပေးသွင်းခြင်း | |
|---|---|---|
| ပထမနှစ်မှ (၁၀)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ | ၆% |
| (၁၁) နှစ်မှ (၂၀)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ | ၁၂% |
| (၂၁) နှစ်မှ (၃၅)နှစ်မြောက် | စုစုပေါင်းဝင်ငွေ၏ | ၁၈% |
| (၃၆) နှစ်မြောက်မှ အထက် | စုစုပေါင်းဝင်ငွေ၏ | ၂၀% |

